

# မြို့ပြစစ်ဆင်ရေးအတွက် အသေးစားလက်စွဲစာအုပ်

BY ဂျွန်စပဲန်ဆာ JOHN SPENCER

VERSION 5 1 DECEMBER, 2022

# မြို့ပြကာကွယ်ရေးအတွက် အသေးစားလက်စွဲစာအုပ်

**COVER IMAGE**
**Title:** Barrigades at Myaynigone Yangon
**Author:** Lionslayer
**Source:** Wikimedia Commons
https://commons.wikimedia.org/wiki/File:Barricades_at_Myaynigone_Yangon.jpg


**TRANSLATION**
ရှိန်မင်းမောင်[Shein Min Maung]
Sophia

# စာရေးသူအကြောင်း

ဂျွန်စပဲန်ဆာ(John Spencer) သည် ဆုရပညာရှင်၊ ပါမောက္ခ၊ စာရေးဆရာ၊ တိုက်ခိုက်ရေး ဝါရင့်စစ်သည်တော်တစ်ဦးဖြစ်ပြီး မြို့ပြစစ်ဆင်ရေး (Urban Warfare)၊ စစ်ရေးမဟာဗျူဟာ၊ နည်းဗျူဟာနှင့် အခြားသော စစ်ရေးဆိုင်ရာ အကြောင်းအရာများနှင့်ပတ်သက်၍ နိုင်ငံတကာ အသိအမှတ်ပြု ကျွမ်းကျင်သူနှင့် အကြံပေးပုဂ္ဂိုလ်လည်းဖြစ်သည်။ ပင်တဂွန်မှ အမေရိကန် စစ်တက္ကသိုလ်အထိ ဗျူဟာမြောက်သုတေသနအဖွဲ့များ၏ တစ်စိတ်တစ်ပိုင်းအဖြစ် အမေရိကန် ကြည်းတပ်ရှိ ထိပ်တန်းကြယ်လေးပွင့်ဗိုလ်ချုပ်ကြီးများနှင့် အခြားသော အကြီးတန်း ခေါင်းဆောင် များ၏ မြို့ပြစစ်ဆင်ရေးဆိုင်ရာ ကမ္ဘာ့ထိပ်တန်းကျွမ်းကျင်သူအဖြစ် သတ်မှတ်ခံရသူဖြစ်သည်။

စပဲန်ဆာ(Spencer)သည် မေဒီဆဲန်ပေါ်လစီဖိုရမ် (Madison Policy Forum) နှင့်အတူ မြို့ပြစစ်ဆင်ရေးများလေ့လာရေး (Urban Warfare Studies) ၏ ဥက္ကဌအဖြစ်လည်း လက်ရှိတွင် ဆောင်ရွက်နေပါသည်။ သူသည် ဝက်စ်ပွိုင့် အမေရိကန်စစ်တက္ကသိုလ် (West Point) ရှိ မျက်မှောက်ခေတ်စစ်ပွဲများ လေ့လာရေးအင်စတီကျု (Modern War Institute) တွင်လည်း မြို့ပြ စစ်ဆင်ရေးများ လေ့လာရေး (Urban Warfare Studies) ၏ ဥက္ကဌအဖြစ် မကြာသေးမီက တာဝန်ထမ်းဆောင်ခဲ့ပြီး မြို့ပြစစ်ဆင်ရေးများ လေ့လာရေး ပရောဂျက်စီမံကိန်း (Urban Warfare Project) ၏ တွဲဖက်ညွှန်ကြားရေးမှူးနှင့် မြို့ပြစစ်ဆင်ရေးများ လေ့လာရေး ပရောဂျက်စီမံကိန်း ပေါ့ဒ်ကာ့စ်တ် (Urban Warfare Project) ၏ အစီအစဉ်တင်ဆက်သူအဖြစ်လည်း တာဝန် ထမ်းဆောင်ခဲ့သည်။ ၎င်းသည် ကယ်လီဖိုးနီးယားပြည်နယ် အစောင့်တပ်တွင်လည်း ဗိုလ်မှူးကြီး တစ်ဦးအဖြစ် တာဝန်ထမ်းဆောင်ခဲ့ပြီး ကယ်လီဖိုးနီးယားရှိ အမှတ် ၄၀ ခြေလျင်တပ်မ၊ ကယ်လီဖိုးနီးယားကြည်းတပ် အမျိုးသားအစောင့်တပ်တွင်လည်း မြို့ပြစစ်ဆင်ရေးများအတွက် လေ့ကျင့်ရေးညွှန်ကြားရေးမှူးအဖြစ် တာဝန်ပေးအပ်ခြင်းခံခဲ့ရသူဖြစ်သည်။

စပဲန်ဆာ(Spencer)သည် တက်ကြွသော အမေရိကန်ကြည်းတပ်တွင်လည်း ခြေလျင်တပ်သားအဖြစ် နှစ်ဆယ့်ငါးနှစ်ကျော်ကြာ အမှုထမ်းခဲ့ပြီး တပ်သားမှသည် ပထမတန်းအဆင့် တပ်ကြပ်အထိ၊ ဒုတိယဗိုလ်မှသည် ဗိုလ်မှူးအဆင့်အထိလည်း တာဝန်ထမ်းဆောင်ခဲ့သည်။ တပ်မတော်ကြည်းတပ်အရာရှိအဖြစ် ၎င်း၏ထမ်းဆောင်ခဲ့သည့်တာဝန်များတွင် ခြေမြန်တပ်စုမှူး (Infantry Platoon Leader)နှင့် တပ်စိတ်မှူး(Company Commander)အဖြစ် အီရတ်နိုင်ငံသို့ မြို့ပြတိုက်ခိုက်ရေး စစ်ဆင်ရေးတပ်ဖြန့်ကျက်နေရာချမှု နှစ်ခုပါဝင်ပြီး တပ်မတော် အထူး ရိန်းဂျားခြေမြန်တပ် လေ့ကျင့်ရေးကျောင်း၏ ရိန်းဂျားခြေမြန်တပ်လေ့ကျင့်ရေးမှူး (Ranger Instructor) နှင့် တွဲဘက်စစ်ဦးစီးနှင့် ကြည်းတပ်စစ်ဦးစီးအဖွဲ့ဝင် (Member of the Joint Chief of Staff and Army Staff)၊ စစ်ဗျူဟာလေ့လာရေးဌာနအဖွဲ့မှူး၏ စစ်ဘက်ဆိုင်ရာ အကြံပေးအရာရှိ (Military Advisor on the Chief of Staff of the Army's Strategic Studies Group) အဖြစ်လည်း တာဝန်ထမ်းဆောင်ခဲ့ကာ နယူးယော့ခ်ပြည်နယ်၊ ဝက်စ်ပွိုင့်ရှိ အမေရိကန် စစ်တက္ကသိုလ်တွင် မျက်မှောက်ခေတ်စစ်ပွဲများ လေ့လာရေးအင်စတီကျု၏ ပူးတွဲ တည်ထောင်သူ၊ မဟာဗျူဟာစီမံကိန်းရေးဆွဲသူနှင့် ဒုတိယညွှန်ကြားရေးမှူးအဖြစ်လည်း တာဝန် ထမ်းဆောင်ခဲ့ပြီး စစ်ရေးနည်းဗျူဟာမှ မဟာဗျူဟာအပါအဝင် စစ်ဘက်ဆိုင်ရာ ဘာသာရပ် များစွာကိုလည်း သင်ကြားပို့ချပေးခဲ့သည် ။

၎င်းသည် Connected Soldiers: Life, Leadership, and Social Connections in Modern Warနှင့် Understanding Urban Warfare စာအုပ်များ၏ စာရေးဆရာလည်းဖြစ်သည်။ သူ၏စာအုပ်များကို www.johnspenceronline.com နှင့် ဆိုရှယ်မီဒီယာပလက်ဖောင်း အများစု တွင် တွေ့ရှိနိုင်ပါသည် ။

# ဤလက်စွဲစာအုပ်သည် မည်သူ့အတွက်နည်း။

ဤစာအုပ်ငယ်သည် လွတ်လပ်ရေး၊ ကိုယ်ပိုင်ပြဌာန်းခွင့်၊ လွတ်လပ်မှု၊ တန်းတူညီမျှမှုကို အခြေခံသည့် လူ့အခွင့်အရေးနှင့် ဒီမိုကရေစီရေးအတွက် တိုက်ပွဲဝင်နေသူတိုင်းအတွက် ဖြစ်သည်။ အကြောင်းတရားနှင့် ကွပ်မျက်ခြင်းနှစ်ရပ်စလုံးအတွက် တရားမျှတသောစစ်ပွဲကို တိုက်ခိုက်မည့် တိုက်ခိုက်ရေးသမားများအတွက်ဖြစ်သည်။

ဖက်ဆစ်ဝါဒ၊ အာဏာရှင်ဆန်သည့် ရက်စက်ကြမ်းကြုတ်မှု၊ တိုက်ခိုက်သိမ်းပိုက်အောင်နိုင်မှု၊ နယ်ချဲ့ဝါဒ သို့မဟုတ် အာဏာရှင်စနစ်ကို ထောက်ခံရန် ကြိုးပမ်းသူ မည်သူတစ်ဦးတစ်ယောက်အတွက်မျှ မဟုတ်သလို အခြားသူများကို လက်အောက်ခံ အဖြစ် သိမ်းပိုက်ရန် ကြိုးပမ်းနေသူများအတွက်လည်း မဟုတ်ပါ။ စစ်ရာဇဝတ်မှုများ၊ လူသားမျိုးနွယ်အပေါ်ကျူးလွန်သော ရာဇဝတ်မှုများ သို့မဟုတ် လူမျိုးတုံးသတ်ဖြတ်မှု ကျူးလွန်သော တိုက်ခိုက်ရေးသမားများအတွက် မဟုတ်ပါ။

# TABLE OF CONTENTS

# ၁။ စပဲန်ဆာ(Spencer)၏ တည်ဆဲနည်းဥပဒေသများ (မြို့ပြကာကွယ်ရေးအတွက်)

(၁) ခံစစ်သည် အကောင်းဆုံးတိုက်စစ်ဖြစ်သည်။ သင့်ရန်သူသည် သင့်ကိုတိုက်ခိုက်ရန် လာရမည်ဖြစ်၍ သင်သည်အသင့်အနေအထားဖြစ်ရန် ပြင်ဆင်ချိန်ရသည်။ လမ်းဟင်းလင်းပြင် ကိုကူးကျော်၍ သင့်ကို သင့်ရန်သူကတိုက်ခိုက်ရန်လာချိန်တွင် လမ်းမပေါ်မှာတင် သင့်ရန်သူကို သုတ်သင်ပါ။

(၂) ခံစစ်ပြင်ဆင်မှုကို ဘယ်တော့မှမရပ်တန့်ပါနှင့်။ တိုက်ပွဲဝင်နေသည့်အချိန်တွင်တောင်မှ မိမိရဲ့အသင့်အနေအထားရှိမှုကို ဆက်လက်ပြီး ပိုကောင်းသထက် ကောင်းစေရန် ထိန်းသိမ်း ထားပါ။

(၃) တိုက်ခိုက်သူကို သူအလိုရှိရာသို့မသွားစေဘဲ သင်အလိုရှိရာသို့ သွားအောင်လုပ်ပါ။ အတားအဆီးများကို တတ်နိုင်သမျှမြင့်အောင် တည်ဆောက်ပါ။ လမ်းများ၊ လမ်းသွယ်များ၊ တံခါးများနှင့် ပြတင်းပေါက်များအားလုံးကို ပိတ်ဆို့ပါ။ ရန်သူကို မိမိ၏ပြင်ဆင်ထားသော ထောင်ချောက်ထဲသို့ဝင်စေပြီး မြို့ရိုးခံတပ်အဖြစ် ပြောင်းလဲလိုက်ပါ။

(၄) သံကူကွန်ကရစ်ကိုသုံးပါ။ ၎င်းသည် သင်၏ အကြီးမားဆုံးသော ခံစစ်အရင်းအမြစ် ဖြစ်သည်။ သစ်သားနှင့် သဲအိတ်များမသုံးပါနှင့်။ သစ်သားနှင့်သဲအိတ်များသည် အကြမ်းပတမ်း မခံပေ။ သံကူကွန်ကရစ်အား အသုံးပြုခြင်းသည် အခိုင်မာအတောင့်တင်းဆုံး ခံစစ်ပစ္စည်းများ အား အသုံးပြုရန်နည်းလမ်းများထဲမှ တစ်ခုဖြစ်သည်။ အတားအဆီးများနှင့် တိုက်ခိုက်ရေး အနေအထားများကို ၎င်းနည်းလမ်းများဖြင့် တည်ဆောက်ပါ။

(၅) မိမိကိုယ်ကိုယ်၊ မိမိ၏အသင့်အနေအထားနှင့် မိမိလက်နက်များကို အမြဲဝှက်ထားပါ။ ရန်သူက သင့်ကို အပေါ်စီးကနေ မြင်နိုင်သည်ဟု အမြဲယုံကြည်ထားပါ။ သူ့အနေဖြင့် သင့်ကိုမြင်နိုင်လျှင် ဒုံးကျည်များ၊ ဗုံးများ၊ မော်တာများဖြင့် တိုက်ခိုက်နိုင်သည်။ အကယ်၍

သင်သည် အဆက်မပြတ် ပုန်းအောင်းနေပြီး အဆောက်အဦအတွင်း ရွေ့လျားနေပါက ၊ သို့မဟုတ် အဆောက်အဦများကြားရှိ ကာဗာများအောက်တွင် ရွေ့လျားနေပါက ရန်သူသည် သင့်အား တိုက်ခိုက်နိုင်မည် မဟုတ်ပါ။

(၆) မြေအောက်အဆောက်အဦအားလုံးကိုအသုံးပြုပါ။ သင့်ရဲ့တည်ရှိရာနေရာအောက်တွင် မြေအောက်အဆောက်အဦတစ်ခုမှမရှိခဲ့လျှင် စတင်တူးလိုက်ပါ။ တိုက်ခိုက်သူသည် သင့်အား မတိုက်ခိုက်မီ ဖုံးခွဲလိမ့်မည်။ ပုန်းခိုရန်၊ လွတ်မြောက်ရန်၊ မိမိကိုယ်ကိုကာကွယ်ရန်၊ ထောက်ပံ့ပစ္စည်းများကို သိုလှောင်သိမ်းဆည်းရန်၊ ရွှေ့ပြောင်းရန်နှင့် တန်ပြန်တိုက်ခိုက်ရန် မြေအောက်အဆောက်အဦများကို သင်အသုံးပြုနိုင်သည်။

(၇) အရာအားလုံးကို မခန့်မှန်းနိုင်အောင်ထားပါ။ တိုက်ခိုက်သူရန်သူသည် သံကူကွန်ကရစ်များကြောင့် သင့်ကို မမြင်နိုင်ပေ။ တိုက်ပွဲများ ဘယ်အချိန်၊ ဘယ်နေရာမှာဖြစ်မည်ဆိုသည်ကို မိမိဘက်မှသာ ဆုံးဖြတ်ခင်းကျင်း ဖော်ဆောင်ပါ။ ရန်သူသည် မြို့ပြစနိုက်ပါများကို အလွန်ကြောက်သဖြင့် ပြတင်းပေါက်တိုင်းတွင် စနိုက်ပါချိန်ထားသည်ဟု ထင်ရအောင်ပြုလုပ်ပါ။

(၈) အုပ်စုလိုက် တိုက်ခိုက်ပါ။ တိုက်ခိုက်ရေးသမားတဦးတည်းဖြင့် မလုံလောက်ပါ။ အနည်းဆုံး ၃ - ၅ ဦးပါသည့်အဖွဲ့ဖြင့် တိုက်ခိုက်ပါ။

(၉) အကာအကွယ်နှင့် လျှို့ဝှက်ထားသော အနေအထားမှသာ အမြဲတိုက်ခိုက်ပါ။ သင့်အနေဖြင့် အဆောက်အဦအတွင်းမှဖြစ်စေ၊ မြင့်သော သို့မဟုတ် နိမ့်သောအထပ်မြင့် အဆောက်အဦများမှဖြစ်စေ၊ အပျက်အစီးပုံများနောက်မှဖြစ်စေ၊ သို့မဟုတ် မြေအောက်မှ ပေါ်လာ၍ဖြစ်စေ၊ တစ်ခုခုကို ပစ်ချခြင်း (သို့မဟုတ်) တစ်ခုခုကိုပစ်ခွင်းခြင်းများ ပြုလုပ်ပါက အကာအကွယ်နှင့် လျှို့ဝှက်ထားသော အနေအထားမှသာ အမြဲတိုက်ခိုက်ပါ။

(၁၀) တိုက်ခိုက်ပြီးနောက် ထွက်ပြေးရန် အစီအစဉ် အမြဲရှိပါ။ ရန်သူဘက်မှ ကြဲသည့်ဖုံးကျသောအခါ သို့မဟုတ် သင့်အနီးအနားတွင် ရန်သူများ အလွန်နီးကပ်နေသောအခါ၌ တိုက်ခိုက်ပြီးနောက် ထွက်ပြေးရန်အတွက် အခန်းများနှင့် အဆောက်အဦများကြားတွင် နံရံများ၊ ကြမ်းပြင်များနှင့် မျက်နှာကြက်များကို အပေါက်များပြုလုပ်ထားပါ။ လွတ်မြောက်ရန်နေရာ

များအဖြစ် အဆောက်အအုံများနှင့် အိမ်များအောက်တွင် ဥမင်လိုဏ်ခေါင်းတူးပါ။ နေရာတိုင်းတွင် အမျိုးမျိုးသော ချိတ်ဆက်တိုက်ခိုက်နိုင်မည့် အနေအထားများစွာကို ပြုလုပ်ထားပါ — အကြိုထောက်ပံ့ရေးပစ္စည်းများဖြစ်သည့် - လက်နက်ခဲယမ်းများ၊ လက်ပစ်ဗုံးများ၊ ဒုံးပျံပစ်လောင်ချာများ၊ ရေစသည်တို့ကို ထားရှိထားပါ။

(၁၁) မထိတ်လန့်ပါနှင့်။ ရန်သူသည် မြို့ပြစစ်ပွဲကိုကြောက်သည်။ သင်တို့၏ခံတပ်များကို ကျော်ဖြတ်ရန် ကြိုးစားလိမ့်မည်။ မိမိရန်သူအိပ်စက်ခြင်း၏ ၃ ပုံ ၂ ပုံထက် ဘယ်တော့မှ ပိုမအိပ်ပါနှင့်။

(၁၂) ရေသောက်ပါ။ သင်သေသွားရင် ဆက်လက်မတိုက်ခိုက်နိုင်ပါ။ အစာမစားဘဲ သုံးပတ်မျှ အသက်ရှင်နိုင်သော်လည်း ရေမရှိလျှင် သုံးရက်သာအသက်ရှင်နိုင်သည်။ မည်သည့်ရေကိုမဆို သန့်စင်ပါ (ပြုတ်ပါ၊ ပိုးသတ်ပါ၊ သို့မဟုတ် အိုင်အိုဒင်းထည့်ပါ)။ ဆီးကြည်ကြည်လင်လင် သွားပါက ကြောက်စရာမရှိပါ။ ဆီးအဝါရောင် သို့မဟုတ် ဆီးအညိုရောင် သွားပါက သင်ပင်ပန်း နေပါပြီ။

(၁၃) အစာမစားမီ လက်ကိုဆေးကြောပါ။ ရောဂါက ရန်သူ့ကျည်ဆန်ထက်ပို၍ လူကို သေစေနိုင်သည်။ သင်စားသောက်သည့်အခါတွင် သင့်အိမ်သာများသည် မီတာ ၁၀၀ ကျော် အကွာတွင် ရှိနေကြောင်း သေချာပါစေ။ ယင်ကောင်များ သင့်အစားအစာများကို မထိပါစေနှင့်။

(၁၄) စစ်ဥပဒေများကို လိုက်နာရမည်။ သင့်ကို တိုက်ခိုက်ရေးသမားအဖြစ် ခွဲခြား သတ်မှတ်နိုင်ရန် အမှတ်အသားများကို ဝတ်ဆင်ရပါမည်။ ရန်သူ၏ နည်းပရိယာယ် မည်သည့် အရာပင်ဖြစ်စေ၊ ဖမ်းဆီးထားသော ရန်သူ့တိုက်ခိုက်ရေးသမားများကို ကိုင်တွယ်ခြင်းအပါအဝင် စစ်ဥပဒေများကို လိုက်နာရမည်။

# ၂။ အဘယ်ကြောင့် ကာကွယ်ရသနည်း

မြို့ပြကာကွယ်သူများသည် ၎င်းတို့၏ မိသားစုများ၊ နောက်လိုက်များ၊ ရပ်ရွာ၊ နိုင်ငံနှင့် ၎င်းတို့၏လွတ်လပ်မှုတို့ကို ကာကွယ်ရန် လုပ်ဆောင်ကြခြင်းဖြစ်သည်။

မြို့ပြကာကွယ်သူများသည် မိမိကိုယ်တိုင်နှင့် အခြားသူများအား မိမိတို့အနေဖြင့် အဘယ်ကြောင့် တိုက်ခိုက်နေကြသည်ကို သတိပေးရန် လိုအပ်ပေမည်။

စစ်ရေးအရဆိုလျှင် ခုခံကာကွယ်ခြင်းသည် အချိန်ဆွဲရန် သို့မဟုတ် စစ်ရေးအရ ကျူးကျော်တိုက်ခိုက်မှုကို ရပ်တန့်နိုင်ရန် နှေးကွေးစေရန်ပြုလုပ်ခြင်းပင်ဖြစ်သည်။

ဝင်ရောက်တိုက်ခိုက်သူများအတွက် အချိန်သည် အရေးကြီးသည် - အချိန်ပိုကြာလေ၊ တိုက်ခိုက်သူများအနေဖြင့် ၎င်းတို့၏ကျူးကျော်စစ်အတွက် ပိုခက်ခဲလေလေ၊ ၎င်းတို့၏ ထောက်ပံ့မှုများ ပြတ်တောက်လေလေ၊ ၎င်းတို့၏ စစ်သည်များ ပြန့်ကျဲပြီး တိုက်ခိုက်ခံရလေလေဖြစ်ပြီး ရှုံးနိမ့်နိုင်ခြေ ပိုများလေဖြစ်ပါသည်။

မိမိတို့ဘက်မှအချိန်ဆွဲနိုင်ခြင်းဖြင့် ရန်သူကိုဖျက်ဆီးရန် အခြားမဟာမိတ်တပ်ဖွဲ့များ ရောက်ရှိလာနိုင်သည်၊ ထောက်ပံ့ရေးပစ္စည်းများ များများယူဆောင်လာနိုင်သည် သို့မဟုတ် နိုင်ငံတကာအဖွဲ့များ ပိုမိုပါဝင်လာနိုင်သည်။

# ၃။ တိုက်ပွဲဝင်လိုစိတ်

*"စိတ်ဓာတ်သည်လည်း ခန္ဓာနည်းတူ အရေးပါသည်"*
*- နပိုလီယံဘိုနာပတ်*

မြို့ပြကာကွယ်သူများ၏ စူပါပါဝါသည် ၎င်းတို့၏ တိုက်ပွဲဝင်စိတ်ဓာတ်၊ ၎င်းတို့၏ တိုက်ပွဲဝင်လိုစိတ်ဖြစ်သည်။

မြို့ပြကာကွယ်သူများသည် မိမိတို့နိုင်ငံ၊ မိမိတို့၏လွတ်လပ်မှု၊ မိသားစုနှင့် မိမိတို့ကိုယ်တိုင်အတွက် တိုက်ပွဲဝင်ကြသည်။

မြို့ပြခံစစ်များသည် အောင်နိုင်နိုင်သည်ဟု မြို့ပြကာကွယ်သူများအနေဖြင့် ယုံကြည်ရမည်။ မြို့ပြမြေပြင်တွင် မြို့ပြကာကွယ်သူများအတွက် အားသာချက်ရှိသည် ။

အကြောက်တရားက သင့်ကို မလွှမ်းမိုးပါစေနှင့်။ တိုက်ပွဲတွင် အကြောက်တရား ဆိုသည်ကို လူတိုင်းကြုံဖူးကြသည်။ သတ္တိရှိခြင်းဆိုသည်မှာ ကြောက်ရွံ့မှုကိုခံစားရသော်လည်း ဆက်ပြီး တိုက်ပွဲဝင်နေခြင်းဖြစ်သည်။

မြို့ပြကာကွယ်သူများသည် တိုက်ခိုက်လာသည့်ရန်သူအား ကြောက်ရွံ့ထိတ်လန့်စေကာ တိုက်ခိုက်လိုစိတ်ဆုံးရှုံးသွားအောင် ကြိုးပမ်းသင့်သည်။

# ၄။ အဖွဲ့များဖွဲ့ပါ။

အဖွဲ့များဖွဲ့ပါ။ မြို့ပြကာကွယ်သူတစ်ယောက်အနေဖြင့် သန်မာနိုင်ပါသည်။ သို့သော် မြို့ပြကာကွယ်သူအဖွဲ့တစ်ဖွဲ့ကိုတော့ ဖြိုခွဲ၍မရနိုင်ပါ။



အုပ်စုဖွဲ့ခြင်းသည် ကြောက်ရွံ့ခြင်း၊ စိတ်ဓာတ်ကျခြင်းနှင့် အခြားသော စိတ်ခံစားမှုများကို ကျော်လွှားနည်းဖြစ်သည်။ အဖွဲ့၏အဖွဲ့ဝင်တစ်ဦးစီသည် တစ်ဦးအတွက်တစ်ဦး တိုက်ပွဲဝင်ကြပြီး အုပ်စုတစ်ဖွဲ့အနေဖြင့် တိုက်ပွဲဝင်ကြသည်။

# ၅။ မြို့ကိုတိုက်ခိုက်ခြင်းနှင့် သက်ဆိုင်သည့် စည်းမျဉ်း 'ဂ' ခု

မြို့တစ်မြို့ကိုတိုက်ခိုက်ခြင်းမပြုရန် တပ်ဖွဲ့ ၁ ခုကို တားမြစ်သည့် စည်းမျဉ်းများရှိသည်။ ဉာဏ်ရှိသော မြို့ပြကာကွယ်သူတစ်ဦးသည် တိုက်ခိုက်လာသည့်ရန်သူအား ဆန့်ကျင်တိုက်ခိုက်ရန်အတွက် စည်းမျဉ်းတစ်ခုစီကို အထိရောက်ဆုံးအသုံးချရန် စီစဉ်ထားရသည်။ စည်းမျဉ်းများမှာ -

(၁) မြို့ပြကာကွယ်ရေးတပ်တွင် အားသာချက်ရှိပါသည်။ ဟင်းလင်းပြင်ထက် ပိုမိုခိုင်ခံ့ပြီး စနစ်တကျတည်ဆောက်ထားသော ကာကွယ်ရေးအခြေအနေတွင်ရှိသည့် ခံတပ်တစ်ခုကို တိုက်ခိုက်အနိုင်ယူရန် စစ်အင်အားအမြောက်အများ လိုအပ်ပါသည်။

(၂) မြို့ပြမြေပြင်သည် ရန်သူ၏ ထောက်လှမ်းခြင်း၊ စောင့်ကြည့်ခြင်းနှင့် ကင်းထောက်ခြင်း၊ လေကြောင်းပစ္စည်းများ အသုံးပြုနိုင်မှုနှင့် တိုက်ခိုက်လာသူများအတွက် အကွာအဝေးတစ်ခုအတွင်း ထိပ်တိုက်ရင်ဆိုင်နိုင်မှုစွမ်းရည်တို့ကို လျော့နည်းစေပါသည်။

(၃) တိုက်ခိုက်သည့် ရန်သူသည် ဖုံးကွယ်ထားသည့် အကန့်အသတ်များရှိခြင်းကြောင့် မြို့ပြကာကွယ်ရေးတပ်သည် တိုက်ခိုက်သည့် ရန်သူကိုမြင်နိုင်ပြီး ထိပ်တိုက်ရင်ဆိုင်နိုင်သည်။ ခံစစ်တပ်ဖွဲ့အတွက် အကြီးမားဆုံး နည်းဗျူဟာအားသာချက်မှာ အဆောက်အဦအတွင်းရော၊ အောက်ထဲတွင်ပါ ပုံးကွယ်နေနိုင်ခြင်းဖြစ်သည်။

(၄) အဆောက်အဦများသည် ညှိနှိုင်းဆွေးနွေးရန် ခိုင်ခံ့သော ကတုတ်ကျင်းများအဖြစ် ဆောင်ရွက်ပေးသည်။ မြို့ကြီးများသည် စစ်ဘက်ဆိုင်ရာ ရည်ရွယ်ချက်အတွက် စံနမူနာနှင့် ကိုက်ညီသော အဆောက်အဦများ အပြည့်ရှိသည်။ ကြီးမားသော အစိုးရရုံးများ သို့မဟုတ် စက်မှုအဆောက်အအုံများကို အများအားဖြင့် ထူထဲသော သံကူကွန်ကရစ်ဖြင့် ပြုလုပ်ထားပြီး ၎င်းတို့သည် စစ်ဘက်ဆိုင်ရာ လက်နက်အများအပြားက မထိုးဖောက်နိုင်ပေ။

(၅) တိုက်ခိုက်သည့်ရန်သူများသည် အဆောက်အအုံများကို ထိုးဖောက်ဝင်ရောက်ရန် ဖောက်ခွဲရေးပစ္စည်းများကို အသုံးပြုရမည်ဖြစ်သည်။ မြို့ပြခံတပ်များကို တိုက်ခိုက်ခြင်း၏ အဓိကနည်းလမ်းမှာ အဆောက်အအုံကို ဖောက်ခွဲရေးပစ္စည်းများဖြင့် ပြင်ဆင်ပြီး ဝင်ရောက် ရှင်းလင်းရန် ခြေလျင်တပ်များစေလွှတ်ခြင်း သို့မဟုတ် လိုအပ်ပါက အဆောက်အအုံတစ်ခုလုံးကို ဖျက်ဆီးခြင်းဖြစ်သည်။

(၆) မြို့ပြကာကွယ်ရေးတပ်သည် မြို့ပြမြေပြင်အတွင်း လွတ်လပ်စွာ လှုပ်ရှားသွားလာခွင့်ကို ထိန်းသိမ်းထားသည်။ ၎င်းတို့သည် တိုက်ပွဲလိုအပ်သည့် နေရာတိုင်းသို့ သွားလာလှုပ်ရှားနိုင်စေရန် မြေမျက်နှာသွင်ပြင်ကို လိုသလိုပြင်ဆင်နိုင်သည်။ ၎င်းတို့အနေဖြင့် အဆောက်အဦအောက်ရှိ လမ်းကြောင်းများနှင့် တိုက်ပွဲနေရာများကို ချိတ်ဆက်နိုင်သည်။ ၎င်းတို့သည် လူထူထပ်သော မြို့ပြပတ်ဝန်းကျင်တွင် တိုက်ခိုက်သည့် ရန်သူများကိုမသိစေဘဲ ပိပိရိရိခြုံခိုတိုက်ခိုက်သူ များအဖြစ် အသွင်ပြောင်းပြီး တိုက်ခိုက်သည့် ရန်သူများကို မျှားခေါ်ရန် အတားအဆီးများကို ဖန်တီးနိုင်သည်။

(၇) မြေအောက်သည် မြို့ပြကာကွယ်ရေးတပ်၏ ခိုလှုံရာအဖြစ် ဆောင်ရွက်ပေးသည်။ မြို့ပြကာကွယ်သူများသည် တိုက်ခိုက်လာနိုင်သည့် နေရာများကို ချိတ်ဆက်ရန်၊ ထောက်လှမ်းခြင်းမှ ပုန်းအောင်းရန်နှင့် လေကြောင်းတိုက်ခိုက်မှုများမှ အကာအကွယ်ပေးရန်တို့ အတွက် ရှိပြီးသား ဥမင်လှိုဏ်ခေါင်းများကို အသုံးပြုခြင်း (သို့မဟုတ်) ၎င်းတို့ကိုယ်ပိုင် ဥမင်လှိုဏ်ခေါင်းများကို တူးနိုင်ခြင်းတို့ကို ပြုလုပ်နိုင်ပြီး ထိုဥမင်လှိုဏ်ခေါင်းများအား တပ်စွဲထားသော စစ်တပ်ကိုတိုက်ခိုက်ရန် လှိုဏ်ခေါင်းဗုံးများအဖြစ် တန်ပြန်အသုံးချနိုင်သည်။

(၈) တိုက်ခိုက်သူရော မြို့ပြကာကွယ်ရေးတပ်ပါ တစ်ဖက်နှင့်တစ်ဖက် တိုက်ခိုက်ရာတွင် ၎င်းတို့၏ တပ်ဖွဲ့များကို အာရုံမစိုက်နိုင်ပါ။ လူထူထပ်သော မြို့ပြမြေပြင်တွင် ဖွဲ့စည်းထားသောခံစစ်သည် အလျင်အမြန်လှုပ်ရှားခြင်းနှင့် ပစ်မှတ်များကို ပြတ်ပြတ်သားသား တိုက်ခိုက်နိုင်ခြင်းအပေါ် အာရုံစူးစိုက်လုပ်ဆောင်နိုင်စွမ်းရန် အကန့်အသတ်များရှိသည်။

# ၆။ ကာကွယ်ရေးဆိုင်ရာ အစိတ်အပိုင်း '၇' ခု

ကာကွယ်ရေး၏ ဤအချက် ၇ ချက်သည် မည်သည့်အတိုင်းအတာတခု သို့မဟုတ် မည်သည့်ပတ်ဝန်းကျင်ရှိ ကာကွယ်ရေးနှင့်မဆို သက်ဆိုင်ပါသည်။ မြို့ပြကာကွယ်ရေးတွင် ခုခံကာကွယ်သူသည် မြို့ပြမြေပြင်ကို မည်ကဲ့သို့ပုံဖော်နိုင်သည်ကို အမြဲတမ်းစဉ်းစားနေရမည် (ရန်သူအား လုပ်ချင်ရာလုပ်ခွင့်ရနေခြင်းကို ရပ်တန့်စေပြီး မိမိတို့ခုခံကာကွယ်ချင်သည်ကို ကာကွယ်ခွင့်ရအောင်လုပ်ယူရမည်)။ အဓိကအချက် ၇ ချက်မှာ -

(၁) **ကြိုတင်ပြင်ဆင်မှု** – မြို့ပြကာကွယ်သူများသည် တိုက်ခိုက်ရန် ဆုံးဖြတ်သည်နှင့် တစ်ပြိုင်နက် ၎င်းတို့ကာကွယ်ရမည့် မြို့ပြဧရိယာကို မိမိတို့၏အစီအစဉ်များနှင့်အညီ ပုံဖော်ရန် စတင်စီစဉ်ရမည်ဖြစ်ပါသည်။ မြို့ပြကာကွယ်သူများသည် ကြိုတင်ပြင်ဆင်မှုကို ဘယ်တော့မှ မရပ်ရပါ။ မြို့ပြကာကွယ်သူများအနေဖြင့် တိုက်ခိုက်နေချိန်ကာလ၌ အချို့တိုက်ခိုက်ရေး သမားများက ပစ်ခတ်တိုက်ခိုက်နေချိန်တွင် ကျန်တိုက်ခိုက်ရေးသမားများက အတားအဆီးများ ပြုလုပ်ခြင်း၊ အသင့်အနေအထားများ ပြင်ဆင်ခြင်းတို့ကို ပြုလုပ်နေရပါမည်။

(၂) **ပြောင်းလွယ်ပြင်လွယ်ရှိမှု** - ကာကွယ်ရေးခံစစ်တစ်ခုလုံးသည် တိုက်ခိုက်လာသူ၏ လုပ်ဆောင်ချက်များအပေါ်မူတည်၍ ပြောင်းလဲရန် ပြောင်းလွယ်ပြင်လွယ်ရှိရမည်။ ထိုအချက်သည် ဘလောက်တစ်ခုစာမှ တစ်မြို့လုံးအတိုင်းအတာအထိ ကာကွယ်ရေးခံစစ် အတွက် အရေးကြီးသည်။

(၃) **လုံခြုံရေး** – မြို့ပြခုခံကာကွယ်သူများသည် မြို့ကိုအဖက်ဖက်မှ ဘေးကင်းလုံခြုံအောင် စီစဉ်ထားရမည်။ တိုက်ပွဲအားလုံးတွင် တပ်သားတစ်ဦးထက်ပို၍ ပြင်ဆင်ထားရန်လိုအပ်သည်။

(၄) **စစ်ဆင်ရေးအနက် အတိုင်းအတာ** - ရန်သူကို တတ်နိုင်သမျှ ဝေးဝေးကနေသတ်နိုင်ရန်နှင့် မြို့လယ်မှ မြို့ပတ်လမ်းများ၊ မြို့ရှောင်လမ်းများသို့ ဝေးနိုင်သမျှ ဝေးဝေးတားဆီးထားနိုင်ရန် လိုအပ်သည်။

(၅) **အနွေးဓာတ်အယူက်ပေးခြင်း** - တိုက်ခိုက်သူများ၏ တိုက်ပွဲဖော်ဆောင်ပုံပြိုကွဲစေရန်၊ ယာဥ်တန်းများနှင့် ခြေလျင်တပ်ရင်းများမှ တင့်ကားများကို သီးခြားခွဲထုတ်ရန် မြို့ကိုအသုံးပြုပါ။

(၆) **ဗျူဟာဆင်ခြင်း** - ပစ်ခတ်ရန်လက်နက်များအားလုံး (ရိုင်ဖယ်များ၊ စက်သေနတ်များ၊ စိန်ပြောင်းများ၊ အမြောက်များ၊ ဒုံးပျံများ)နှင့် လျင်မြန်ဖြတ်လတ်သော တပ်သားများကို အသုံးပြုပါ။

(၇) **အစုလိုက်အပြုံလိုက်နှင့် အာရုံစူးစိုက်မှု** – အရေးပေါ်အခြေအနေတွင် တိုက်ခိုက်သူများအပေါ် ခုခံကာကွယ်သူများသည် အုပ်စုလိုက် တစ်ဟုန်ထိုးတိုက်ခိုက်နိုင်ရန် အဆင်သင့်ပြင်ထားပါ။

# ၇.၁။ ထောက်ပို့ပစ္စည်းများစုဆောင်းခြင်း

ခုခံကာကွယ်ခြင်းအပါအဝင် မြို့ပြစစ်ဆင်ရေးသည် ကျေးလက်မြေပြင်တွင် လုပ်ဆောင်ရသည့် အလားတူစစ်ဆင်ရေးများထက် ကျည်ပမာဏ လေးဆလိုအပ်သည်။

ခုခံကာကွယ်ရန်အတွက် မြို့ပြခံစစ်သည် ရန်သူများမရောက်မီ ထောက်ပံ့ရေးပစ္စည်းများကို တတ်နိုင်သမျှ များများစုဆောင်းရမည်။ ထောက်ပံ့မှုများ များလေလေ၊ ခံစစ်ကြာရှည်လေဖြစ်သည် ။

NLAWs၊ Javelins နှင့် RPGs ကဲ့သို့သော တင့်ကားဖျက်ဒုံးကျည်များ (ATGMs) ဖြင့် အဓိကခုခံသူများသည် ရိုင်ဖယ်ကျည်ဆန်များ၊ လက်ပစ်ဗုံးများ၊ တင့်ကားဖျက်မိုင်းများ၊ လူသုံးမိုင်းများ၊ တစ်ခါသုံးမောင်းသူမဲ့လေယာဉ် (ဒရုန်း)များ၊ စိန်ပြောင်းများနှင့် လက်နက်ကြီးကျည်များ၊ ရေ၊ တာရှည်ခံသောအစားအစာများ၊ လောင်စာများ (ချက်ပြုတ်/ယာဉ်/မီးစက်) နှင့် စစ်မြေပြင်သုံး ပတ်တီးများ/ဆေးဝါးများ လိုအပ်သည်။

# ၇.၂။ မြို့ပြခုခံကာကွယ်သူ ဘာလိုအပ်သလဲ။




**အလွန်အရေးကြီးသည့်အရာများ**
ရိုင်ဖယ်ကျည်ဆန်များ
တင့်ကားဖျက်ဒုံးကျည်များ (RPG, NLAW, Javelin)
ကျည်အပါအဝင် လက်နက်ခဲယမ်းမီးကျောက်များ (အမြောက်အများ)
လက်ပစ်ဗုံး (အမြောက်အများ)
ရေ (အမြောက်အများ)
အသင့်စားအစားအစာ
ဆေးဝါးအထောက်အကူများ

**အရေးကြီးသည့်အရာများ**
တိုက်လေယာဉ်
မြေစိုက်မိုင်း
စနိုက်ပါ ရိုင်ဖယ်များ
တင့်ကားဖျက်မိုင်းများ
လောင်စာဆီ
ဒရုန်း

# ၇.၃။ သင့်တွင် လူအင်အားအရေအတွက်များနှင့် အားသာချက်များရှိသည်။

ပြင်ဆင်ထားသော မြို့ပြခံစစ်သည် အားသာချက်ရှိသည်။ ၂၀၁၆ - ၂၀၁၇ ခုနှစ်တွင် မိုဆူးလ်မြို့အား သိမ်းပိုက်ထားသည့် ISIS ခုခံကာကွယ်သူ ၅၀၀၀ မှ ၁၀၀၀၀ ကို ပြန်လည် တိုက်ခိုက်၍ မြို့အားသိမ်းပိုက်ရန် လုံခြုံရေးတပ်ဖွဲ့ဝင် ၁၀၀၀၀၀ ကျော်အနေဖြင့် ၉ လကြာ အချိန်ယူခဲ့ရသည်။ ဂျာမန်တို့သည် စတာလင်ဂရက်ကို သိမ်းပိုက်ရန် သောင်းနှင့်ချီသော စစ်သားများကို အသုံးပြုခဲ့ပြီး မအောင်မြင်ခဲ့ပေ။ စစ်ရေးအယူအဆအရ တိုက်ခိုက်သည့် ရန်သူသည် တောအုပ်အတွင်း သို့မဟုတ် ဟင်းလင်းပြင်တွင် တိုက်ခိုက်ခြင်းထက် လူအင်အား ၃ ဆမှ ၅ ဆအထိ ပိုမိုလိုအပ်သည်ဟုဆိုသည်။ ရန်သူသည် မြို့ပြခုခံကာကွယ်သူ ၁ ဦးအား တိုက်ခိုက်ရန် လူအင်အား ၅ ဆထက်ပို၍ များနိုင်သမျှများများ လိုအပ်နိုင်သည်။

ပြင်ဆင်ထားသည့်ခံစစ်သမား အနည်းငယ်သည် မြို့တစ်မြို့၌ တိုက်ခိုက်လာသည့် ရန်သူအများ အပြားကို ခုခံနိုင်သည်။

အတားအဆီးများနှင့်
ကတုတ်ကျင်းများ။
တူးထားသည့်အပေါက်များနှင့်
ဥမင်များ။





1:1



1:3



1:5 – 1:10

# ၇.၄။ မြို့ပြကာကွယ်ရေးသည် အရာအားလုံးကို အသုံးပြုသည်။

မြို့ပြခုခံကာကွယ်သူသည် မြို့ပြပတ်ဝန်းကျင်ကို နားလည်သည်။ မြို့ပြပတ်ဝန်းကျင်သည် ၎င်းတို့ကျင်လည်ကျက်စားရာ နယ်မြေဖြစ်သည်။ မြို့ပြမြေပြင်သည် ၎င်းတို့၏ စွမ်းအား အရင်းအမြစ်ဖြစ်သည်။ ၎င်းတို့သည် အတိုင်းအတာတိုင်းကို ချဲ့ထွင်နိုင်သည်။ ကျဉ်းမြောင်းသော လမ်းများ၊ မြင့်မားသော အဆောက်အအုံများ၊ ကွန်ကရစ်များ၊ ဓါတ်လှေကားများ၊ မြေအောက်ခန်းများနှင့် ဥမင်လှိုဏ်ခေါင်းများတွင် ပုန်းအောင်းပြီး တိုက်ခိုက်နိုင်သည့်နေရာများ သန်းပေါင်းများစွာရှိသည်။




မြို့ပြဧရိယာ ရှုထောင့်များ မိတ်ဆက်ပုံ - ၁

# ၈။ ကာကွယ်ရေးနှင့် ဘေးကင်းရေး

သင်သေရင် ဆက်လက်မတိုက်ခိုက်နိုင်ပါ။

ရန်သူလာသောအခါတွင် ရန်သူကိုတိုက်ထုတ်နိုင်စေရန် အတတ်နိုင်ဆုံးအနေဖြင့် အကာ အကွယ်နှင့် ဘေးကင်းမှုအရှိဆုံးဖြစ်အောင် မြို့ပြဧရိယာကိုပုံဖော်ပါ ။

ရန်သူကို တိုက်ခိုက်ရန် အဆင့်သုံးဆင့်ရှိမည် ။

မြို့ပြနောက်ခံလူသည် အဆင့်သုံးဆင့်လုံး အသက်ရှင်သန်နိုင်ရန် ပြင်ဆင်ထားရမည်။

# ၈.၁။ ရန်သူ၏တိုက်ခိုက်မှု အဆင့် ‘၁’

မြို့ကို ရန်သူမှတိုက်ခိုက်ခြင်း၏ ပထမအဆင့်သည် မြို့၏ကာကွယ်ရေးကို အားပျော့စေပြီး မြို့တွင်းရှိ ခုခံရေးအင်အားကို ဆုတ်ယုတ်စေမည့် အဓိကနေရာများအား (ကောင်းကင်မှ မြင်ရသည့် အဆောက်အဦ/နေရာများကို ဗုံးကြဲခြင်း) ရန်သူမှတိုက်ခိုက်ခြင်းဖြစ်သည်။ ဤအဆင့်တွင် မိမိတို့၏အဓိကနေရာများနှင့် တိုက်ပွဲနေရာများကို ဖုံးကွယ်ရန် ကြိုးပမ်းမှု အားလုံးကို သင့်အနေဖြင့် လုပ်ဆောင်ရမည်ဖြစ်သည်။ ခုခံသူများသည် ဗုံးကြဲတိုက်ခိုက်မှုများမှ လွတ်ကင်းမည့်နေရာ (ခိုင်ခံ့သော အဆောက်အဦများ၊ မြေအောက်) နှင့် ပြန်လည် ထွက်ပေါ်လာပြီး တိုက်ပွဲဝင်ရန် အသင့်ဖြစ်နေသည့်နေရာရှိရမည်ဖြစ်ကြောင်း သိထားရပါမည်။



# ၈.၂။ ရန်သူ၏တိုက်ခိုက်မှုအဆင့် '၂'

တိုက်ခိုက်သူသည် မြို့နှင့်နီးကပ်လာသည်နှင့်အမျှ နောက်အဆင့်တွင် ခုခံသူများသည် လက်နက်ချမည်ဟူသော မျှော်လင့်ချက်ဖြင့် မြို့ပြအဆောက်အဦများအားလုံးကို ပြင်းထန်စွာ ဗုံးကြဲတိုက်ခိုက်မည်ဖြစ်သည်။ ၎င်းသည် ရက်သတ္တပတ်များစွာကြာမြင့်နိုင်သည်။



# ၈.၃။ ရန်သူ၏တိုက်ခိုက်မှုအဆင့် '၃'

ရန်သူစစ်တပ်သည် မြို့၏နယ်နိမိတ်မျဉ်းများဆီသို့ ချဉ်းကပ်ကာ မြို့ပြပတ်ဝန်းကျင်သို့ ဝင်ရောက်ရန် ကြိုးပမ်းနေချိန်တွင် မြို့တွင်းတိုက်ခိုက်မှု၏ နောက်အဆင့်သည် သွယ်ဝိုက်နှင့် တိုက်ရိုက်ပစ်ခတ်မှုဖြစ်သည်။ ခုခံသူများသည် ကျူးကျော်သူများကို တိုက်ခိုက်နိုင်ရုံသာမက တိုက်ခိုက်မှုများကြားတွင် အသက်ရှင်ကျန်နေရမည်ဖြစ်သောကြောင့် အန္တရာယ်ရှိသော အချိန်ဖြစ်သည်။ ခုခံကာကွယ်သူများအနေဖြင့် တိုက်ခိုက်လာသည့် ရန်သူများအား အနီးကပ် တိုက်ခိုက်နိုင်ပြီး ထိုသို့ရန်သူများနှင့် အနီးကပ်တိုက်ခိုက်ခြင်းဖြင့် ရန်သူများသည် ခုခံသူများနှင့် အနီးကပ်တိုက်ခိုက်နေသည့် ၎င်းတို့၏စစ်သားများကို ၎င်းတို့၏ လက်နက်ကြီးများဖြင့် မှားယွင်း ပစ်ခတ်မိမည်ကို စိုးရိမ်သည့်စိတ် ဖြစ်မိမည်ဖြစ်ပြီး လက်နက်ကြီးများဖြင့် ခုခံကာကွယ်သူ များအား ပစ်ခတ်တိုက်ခိုက်နိုင်တော့မည်မဟုတ်ပေ။

အစောပိုင်းအဆင့်များမှ အပျက်အစီးများသည် ပြင်းထန်သော တိုက်ပွဲအနေအထားများကို ဖြစ်စေသည်။



# ၉။ အချိန်တိုင်း သိုဝှက်နေပါ

သင့်အနေဖြင့် ပုန်းနေရမည်။ သင့်ကို ရန်သူများက မြင်နိုင်လျှင် ဒုံးကျည်များ၊ ဗုံးများ၊ အမြောက်များ၊ စိန်ပြောင်းများဖြင့် တိုက်ခိုက်နိုင်သည်။ တာပေါ်လင်များ၊ အိပ်ယာခင်းများ/စောင်များ၊ သစ်သား၊ ပလပ်စတစ်၊ သံဖြူ သို့မဟုတ် အဆောက်အဦ၏အပေါ်ပိုင်း သို့မဟုတ် ကြားရှိ တစ်ခုခုကိုထား၍ အပေါ်မှ သို့မဟုတ် လမ်းပေါ်ရှိအရာများ သင့်ကို မမြင်နိုင်အောင် ထားပါ။ အရာအားလုံးကို ဝှက်ထားပါ။





# ၉.၁။ မြေအောက်ကိုသုံးပါ

မြေအောက်သည် ဟိုးယခင်ကတည်းက အားကောင်းသော မြို့ပြစစ်ဆင်ရေးကိရိယာ တစ်ခုဖြစ်သည်။ မြေအောကနေရာများသည် ခုခံသူများအား ဗုံးများမှလွတ်မြောက်ရန်၊ တိုက်ခိုက်ရေး သမားများကို ဝှက်ထားရန်၊ သိုလှောင်ပစ္စည်းများနှင့် ထောက်ပံ့ရေးပစ္စည်းများကို ကာကွယ်ရန်အသုံးပြုနိုင်ပြီး ရန်သူများမမြင်ရအောင် ရွေ့လျား၍ တိုက်ခိုက်နိုင်မည်ဖြစ်သည်။

**မြေအောက်သည် ခုခံသူများ၏ အကောင်းဆုံးမိတ်ဆွေဖြစ်သည်**




သင့်တွင် မြေအောက်မရှိပါက စတင်တူးပါ။ အရပ်သား အဖွဲ့တစ်ဖွဲ့၏ ရက်အနည်းငယ် အတွင်း တူးဖော်နိုင်သည့် လိုဏ်ခေါင်း၏ အတိမ်အနက်နှင့်အရှည်ကို သင်အံ့သြမိပါလိမ့်မည်။ ဗုံးအမိုးအကာများ၊ အဆောက်အဦအောက်ရှိ လမ်းကြောင်းများနှင့် ထောက်ပံ့သည့် သိုလှောင်ပစ္စည်းများ ထားရှိရန် ဘေးကင်းသောနေရာများကိုတူးပါ။



# ၉.၂။ ရဲတိုက်တံခါးကိုပိတ်ပါ

သင့်ရဲ့မြို့ကြီး၊ မြို့ငယ် သို့မဟုတ် ရွာကို ရဲတိုက်တစ်ခုအနေဖြင့် စဉ်းစားပါ။

ရဲတိုက်ထဲသို့ ဝင်ရောက်နိုင်သည့် နည်းလမ်းအားလုံးကို တတ်နိုင်သမျှပိတ်ရပါမည်။ လမ်းမကြီး၊ လမ်းငယ်များနှင့် မြို့တွင်းရှိ လမ်းကြားများနှင့် မြို့တွင်းသို့ ဝင်ရောက်နိုင်သမျှ လမ်းကြားတိုင်းကို ပိတ်ဆို့ပါ။

စစ်တပ်မှ မြို့ပြဧရိယာအတွင်းသို့ ကား၊ လေယာဉ်၊ ရဟတ်ယာဉ်၊ လေထီး သို့မဟုတ် ခြေလျင်ဖြင့် ဝင်ရောက်ရန်လိုအပ်သည့် တံတား၊ လေယာဉ်ကွင်း သို့မဟုတ် အဓိကဧရိယာများကို ဖျက်ဆီးပါ သို့မဟုတ် ပိတ်ဆို့ပါ။

တိုက်ခိုက်လာသည့်ရန်သူအား သင်အလိုရှိသော ဧရိယာများသို့သာ ဝင်ခွင့်ပြု၍ သင်၏မြို့ပြဧရိယာကို ပုံဖော်ပါ။ ထိုနည်းလမ်းဖြင့် ၎င်းတို့ကို အုပ်စုငယ်များအဖြစ် ခွဲခြားထားနိုင်သောကြောင့် ၎င်းတို့ကို ဖျက်ဆီးပစ်နိုင်သည်။

# ၉.၃။ အလှာများနှင့် အတားအဆီးအလှာများ

မြို့ပြ၏မြေမျက်နှာသွင်ပြင်သည် စစ်ဘက်ကျူးကျော်ဝင်ရောက်မှုကို တုံ့ဆိုင်းစေရန် သို့မဟုတ် ရပ်တန့်နိုင်ရန် ပုံသဏ္ဌာန်ရှိရမည်ဖြစ်ပြီး ထိုနည်းလမ်းဖြင့် ၎င်းတို့အား ထောင်ချောက်မိစေ၍ ခြုံခိုတိုက်ခိုက်ခံရစေကာ မြို့ပြဧရိယာအတွင်းသို့ ဝင်ရောက်မလာနိုင်ရန် ပိတ်ဆို့ထားနိုင်သည်။

ကာကွယ်ရေးလိုင်းများစွာကို တည်ဆောက်ပါ။ မြို့ပတ်ပတ်လည်တွင် စည်းဝိုင်းများ အပြည့်အစုံပြင်ဆင်ပါ။ ခံတပ်များတည်ဆောက်ပါ။ အတားအဆီးများနှင့်ပိတ်ဆို့၍ အလှာ အထပ်ထပ်ပိတ်၍ နေရာချပါ။ လမ်းတိုင်းတွင် ပိတ်ဆို့ခြင်းများပြုလုပ်ပါ။ လျင်မြန်မှုသည် တိုက်ခိုက်သူအတွက် လုံခြုံမှုဖြစ်သည်။ ဖြည်းဖြည်းချင်းလာသည့်ယာဉ် သို့မဟုတ် စစ်သားတစ်ဦးသည် တိုက်ခိုက်ဖျက်ဆီးရန် ပိုမိုလွယ်ကူသည်။

# ၁၀။ အကာအကွယ်များကို အမြဲတိုးတက်အောင်လုပ်ပါ

မည်သည့်မြို့ပြခံစစ်တွင်မဆို သင့်ရန်သူ၏တိုက်ခိုက်မှုမှ ကာကွယ်နိုင်အောင် အမြဲပြင်ဆင်ထားရမည်ဖြစ်သည်။

တိုက်ပွဲဖြစ်ချိန်၌ပင် သင်၏အနေအထားကို ဆက်လက်မြှင့်တင်ထားပါ။ အချို့ခံစစ်သမားများက တိုက်ပွဲဝင်နေချိန်တွင် အချို့သည် မိမိတို့၏ခံစစ်အနေအထား ပိုမိုအားကောင်းလာအောင် ပြုလုပ်နိုင်သည်။ မထိုင်ပါနှင့်၊ ဟင်းလင်းပြင်နေရာတွင်မရပ်ပါနှင့်။ စစ်ဆေးရေးဂိတ်များ အနီးတွင် ကတုတ်ကျင်းများ ဆောက်ပါ။ ဥမင်များတူးပါ။



ဘန်ကာများ၊ တွင်းများ၊ အမိုးအကာနှင့် လှိုဏ်ခေါင်းများ

# ၁၀.၁။ မည်သည့်လေယာဉ်ကွင်းများကိုမဆို ပိတ်ဆို့ပါ သို့မဟုတ် ဖျက်ဆီးပါ

လေယာဉ်ကွင်းများသည် မြို့ပြစရိယာသို့ လျင်မြန်စွာဝင်ရောက်ရန် ကြိုးစားမည့် တိုက်ခိုက်သူ၏ အဓိကနေရာများ ဖြစ်သည်။ ၎င်းတို့သည် လေဆိပ်များကို သိမ်းပိုက်ရန် တပ်ဖွဲ့များစေလွှတ်ကာ နောက်ထပ်တိုက်ခိုက်သူများစွာနှင့်အတူ လေယာဉ်များကိုဆင်းသက်ရန် ကြိုးစားမည်ဖြစ်သည်။

နောက်ခံလူသည် လေယာဉ်ကွင်းကို ပိတ်ဆို့ရမည်။ သင့်တွင်ရှိသော အကြီးဆုံးနှင့် အလေးဆုံးယာဉ်များကို ပြေးလမ်းများပေါ်တွင် (သော့နှင့် ဘက်ထရီများဖြုတ်၍) ရပ်နားပါ။ အချိန်ရလျှင် ပြေးလမ်းများကို အပေါက်များဖြစ်အောင် တူးပါ။



# ၁၀.၂။ ဆိပ်ကမ်း/သင်္ဘောကျင်းများကို ပိတ်ဆို့ သို့မဟုတ် ဖျက်ဆီးပါ

မြို့အများစုသည် ကမ်းရိုးတန်း သို့မဟုတ် ရေလမ်းပေါ်တွင်ရှိသည်။ ရေလမ်းများ၊ မြစ်များ၊ ကမ်းခြေများ၊ ဆိပ်ကမ်းများနှင့် သင်္ဘောကျင်းများသည် မြို့ပြဧရိယာအတွင်းသို့ လျင်မြန်စွာ ဝင်ရောက်နိုင်ရန် ကြိုးစားမည့် အဓိကနေရာများဖြစ်သည်။

ဆိပ်ကမ်းကို ထိုးဖောက်၍ မရအောင်လုပ်ပါ။ သင်္ဘောကျင်းများကို ဖျက်ဆီးပါ။

ကမ်းတက်ရေယာဉ် နီးကပ်လာမှုမှ ကာကွယ်ရန် ရေ၊ ကမ်းခြေများ သို့မဟုတ် ဆိပ်ကမ်းများတွင် အတားအဆီးများချထားပါ။

ခံတပ်များသည် သင်္ဘောကျင်းများကို ဖယ်ရှားခြင်းဖြင့် သင်္ဘောများကို နစ်မြုပ်နိုင်သည်။ ကမ်းခြေများနှင့် ဆိပ်ကမ်းများကို ဖုံးကွယ်ရန် လက်နက်/ဗုံးခိုကျင်းများရှိသည်။



# ၁၀.၃။ တံတားများအားလုံးကို ပိတ်ဆို့ပါ သို့မဟုတ် ဖျက်ဆီးပါ

စစ်တပ်က မြို့တွင်းကို တတ်နိုင်သမျှ မြန်မြန်ဝင်ရောက် တိုက်ခိုက်ချင်သည်။ လေးလံသော စစ်ယာဥ်များသည် တံတားများကို အသုံးပြုရမည်။ ကမ္ဘာပေါ် ရှိစစ်တပ်အများစု သည် တံတားများမပါဘဲ မြစ်များကိုဖြတ်ရန် နည်းလမ်းနည်းပါးပါသည်။ မြို့ပြခုခံကာကွယ်သူများအနေဖြင့် တံတားများကို ပိတ်ဆို့/ဖျက်ဆီးပါက တိုက်ခိုက်လာသည့် ရန်သူသည် လျင်မြန်စွာ ရပ်တန့်သွားမည်ဖြစ်သည်။



**Image credit:**
https://www.alamy.com/broken-bridge-graphic-black-white-landscape-city-sketch-illustration-vector-image366674803.html

# ၁၀.၄။ လမ်းများအားလုံးကို ပိတ်ဆို့ပါ

အပြင်ထွက်ပြီး လမ်းတွေပေါ်မှာ အတားအဆီးတွေ ဆောက်ပါ။ ဘတ်စ်ကားများ၊ အမှိုက်ကားများ၊ ကားများ၊ ကွန်ကရစ်၊ သစ်သား၊ အမှိုက်နှင့် အခြားအရာများဖြင့် ပိတ်ဆို့ပါ။ ထို့နောက် ပြည့်ကျပ်သောနေရာများတွင် ဘေးတစ်ဖက်တစ်ချက်စီ၌ အထပ်မြင့် အဆောက်အဦ များရှိသည့် မြို့တွင်းရှိ မည်သည့်နေရာကိုမဆို ပိတ်ဆို့ပါ။ လမ်းများနှင့် လမ်းကြားများအားလုံး ကိုပိတ်ဆို့ပါ။





**Image credits:**
https://www.theguardian.com/world/from-the-archive-blog/2018/may/18/1848-year-of-revolution-archive and US Army FM 7-8, 2001

# ၁၀.၅။ တံခါးများနှင့် လှေကားများအားလုံးကို ပိတ်ဆို့ပါ

အထူးသဖြင့် အိမ်များကို တိုက်ပွဲနေရာအဖြစ် အသုံးပြုမည်ဆိုပါက တတ်နိုင်သမျှ အိမ်များ၏ တံခါးများနှင့် လှေကားများကို ပိတ်ဆို့ပါ။ ပရိဘောဂများ၊ အပျက်အစီးများ၊ သံဆူးကြိုး အစရာအားလုံးကို အသုံးပြုပါ။



**Image credit:**
US Army FM 7-8, 2001

# ၁၀.၆။ ယာဉ်အားလုံးကို ရပ်ပါ သို့မဟုတ် အရှိန်နှေးအောင်ပြုလုပ်ပါ

မိမိ၏ရေိယာသို့ ယာဉ်များအားလုံး ဝင်ရောက်ခွင့် သို့မဟုတ် ဖြတ်သန်းသွားလာခွင့်ကို ရပ်တန့်ပါ။ လမ်းအားလုံးကို ပိတ်ဆို့ပါ။ မိုလိုတော့ဗ်များကို ပစ်ခတ်နိုင်ရန် သို့မဟုတ် ပစ်ပေါက်နိုင်စေရန် မော်တော်ယာဉ်များကို အရှိန်လျှော့ပါ။

မြို့တိုင်း၊ မြို့ရွာတိုင်းတွင် လမ်းပိတ်ဆို့မှုများသည် ရန်သူကို နှောင့်နှေးစေသည်။ ထိုသို့ပိတ်ဆို့မှုသည် ရန်သူကို လောင်စာဆီပိုကုန်စေသည်။ လမ်းပိတ်ဆို့မှု များကြောင့် ရန်သူကိုပစ်မှတ်ထားရန် ပိုလွယ်ကူစေသည်။

တိုက်ခိုက်သူသည် အတားအဆီးတစ်ခုတွင် ရပ်လျှင်၊ ၎င်းတို့၏ယာဉ်တံခါးကိုဖွင့် သို့မဟုတ် ထွက်သွားပါက ၎င်းတို့ကို တိုက်ခိုက်နိုင်သည်။

သတိထားရမည်။ လမ်းမပေါ်ရှိ လက်နက်ကိုင်ကို ရန်သူကမြင်နိုင်ပြီး ဒုံးကျည် သို့မဟုတ် အမြောက်များဖြင့် ပစ်ခတ်နိုင်သည်။ တိုက်ခိုက်ရန်ကြံစည်ပါက အဆောက်အဦအတွင်း၌သာ နေပါ။



# ၁၁။ အတားအဆီးများ အသုံးပြုခြင်း

မြို့ပြခုခံကာကွယ်ရေးသမားများသည် မြို့ပတ်ဝန်းကျင်ရှိ အရင်းအမြစ်အားလုံးကို အတားအဆီးများ ပြုလုပ်ရန် အသုံးပြုနိုင်သည်။

အကောင်းဆုံးအတားအဆီးမှာ - သွယ်ဝိုက် ပစ်ခတ်မှု (အမြောက်/စိန်ပြောင်း) သို့မဟုတ် တိုက်ရိုက်ပစ်ခတ်မှု (ရိုင်ဖယ်၊ စက်သေနတ်) စသည့် ပစ်ခတ်မှုများမှ အကာအကွယ်ပေးနိုင်ခြင်းဖြစ်သည်။

အဟန့်အတားနှင့် အတားအဆီးပစ္စည်းများသည်များစွာ လုပ်ဆောင်ပေးနိုင်သည် -

- လမ်း၊ ဧရိယာ သို့မဟုတ် လမ်းကြောင်းကို လုံးဝပိတ်ဆို့နိုင်သည်။
- ရန်သူကို အရှိန်လျော့အောင်ပြုလုပ်နိုင်သည်။
- ရန်သူအား ၎င်းတို့၏ယာဉ်များထဲမှ ထွက်လာစေခြင်းဖြင့် ၎င်းတို့ကို တိုက်ခိုက်နိုင်သည်။
- ခုခံကာကွယ်သူများအတွက် အချိန်ဆွဲနိုင်သည်။

အတားအဆီးများ တည်ဆောက်ခြင်းအတွက် နောက်ထပ်အရင်းအမြစ်တစ်ခုမှာ "တိုက်ပွဲဝင်အနေအထားများ ၊ အတားအဆီးများနှင့် ပြန်လည်ပြင်ဆင်ခြင်းလမ်းညွှန်" ဖြစ်သည်။ https://apps.dtic.mil/sti/pdfs/ADA423950.pdf

# ၁၁.၁။ အရာရာကိုရပ်တန့်စေနိုင်မည့် အတားအဆီးများကို ပြုလုပ်ပါ

မြို့ပြခုခံကာကွယ်ရေးသမားများသည် မြို့ပတ်ဝန်းကျင်ရှိ (မြစ်များ၊ ကွန်ကရစ်၊ သံမဏိ၊ ကားများစသည်) ကို အသုံးပြု၍ ၎င်းတို့၏မြို့များကို ခုခံကာကွယ်နိုင်သည်။ ခေတ်မီ မြို့ကြီးများတွင် ယာဉ်စစ်ဆေးရေးဂိတ်များ သို့မဟုတ် အခြေခံအဆောက်အအုံ ကာကွယ်ရေး အတွက် တည်ဆောက်ထားပြီးသား ကွန်ကရစ်အတားအဆီးများရှိသည်။ ထိုအတားအဆီး များသည် အဆင်သင့်လုပ်ထားသော ကွင်းပြင်ခံတပ်များဖြစ်သည်။ သံမဏိဆူးများသည်လည်း အသုံးပြုရန်ကောင်းမွန်သည်။



# ၁၁.၂။ အခိုင်မာဆုံးပစ္စည်းများကို အသုံးပြုပါ

မြို့ပြပတ်ဝန်းကျင်တွင် အတောင့်တင်း အခိုင်မာဆုံးပစ္စည်းများနှင့် ပြည့်နေသည်။ အတားအဆီးများအတွက် ပစ္စည်းကို လိမ္မာပါးနပ်စွာရွေးချယ်ပါ။ သဘာဝအတိုင်း အကာအကွယ် အများဆုံးပေးသော မြို့ပြပစ္စည်းများကို အသုံးပြုပါ။

**ဘိလပ်မြေနှင့် ဆောက်လုပ်ရေးပစ္စည်းများသည် အကောင်းဆုံး အကာအကွယ်ဖြစ်သည်**



# ၁၁.၃။ ယာဉ်များ

မြို့ပြပတ်ဝန်းကျင်တွင် ကားအမျိုးအစား အမျိုးမျိုးရှိသည်။ ရနိုင်သမျှ အကြီးဆုံး၊ အလေးဆုံး၊ အခိုင်မာဆုံးကားများကို သုံးပါ။ မည်သည့်ယာဉ်မဆို အလုပ်ဖြစ်နိုင်သည်။ ယင်းတို့သည် အလွန်ကောင်းမွန်သော ချက်ချင်းအသုံးပြုနိုင်သည့် အတားအဆီးများဖြစ်သည်။ လမ်းများ၊ လမ်းကြားများ၊ လေယာဉ်ကွင်းများ၊ နေရာတိုင်းတွင် ရပ်နားထားပါ။ ကားများ၊ ထရပ်ကားများ၊ ဘတ်စ်ကားများ၊ အမှိုက်ကားများနှင့် ဆောက်လုပ်ရေးယာဉ်များကို အသုံးပြုပါ။



# ၁၁.၄။ အားဖြည့်ကွန်ကရစ်

အခါက ကာကွယ်ရေးပစ္စည်းအဖြစ် ကွန်ကရစ်ကို အသုံးပြုပါ။ မြို့ပြခုခံကာကွယ်ရေး သမားသည် ထူးခြားသောမြို့ပြပစ္စည်းများကို တီထွင်အသုံးပြုနိုင်သည်။ သံမဏိတုံးများ (rebar) ဖြင့် အားဖြည့်ထားသည့် ကွန်ကရစ်သည် သဲအိတ်များထက် ဆယ်ဆ ပိုကောင်းသည်။ အပျက်အစီးများ၊ ကျောက်တုံးများနှင့် အုတ်များကို အသုံးပြုပါ။









# ၁၁.၅။ အပျက်အစီးများ

အဆောက်အဦများ ဖြိုလဲပါ။ ကျိုးပဲ့နေသော ကွန်ကရစ်၊ ကျောက်တုံး၊ ကျောက်များ၊ အုတ်များနှင့် အခြားအစိုင်အခဲပစ္စည်းများကဲ့သို့သော ခိုင်မာသည့် အတားအဆီးများရရှိနိုင်ရန် အဆောက်အဦများကို ဖြိုလဲခြင်းဖြင့် အပျက်အစီးများကို ဖန်တီးပါ။ သို့မဟုတ် ရန်သူက ဗုံးကြဲလျှင် ၎င်းတို့ဖန်တီးထားသော ဗုံးအပျက်အစီးများကို အသုံးပြုပါ။ အပျက်အစီးပုံများ တည်ဆောက်ပါ။





**ပုံနှင့် အကြောင်းအရာ ခရက်ဒစ်**
https://apps.dtic.mil/sti/pdfs/ADA423950.pdf

# ၁၁.၆။ ရေ

မြစ်များ၊ ရွံ့နွံများနှင့် ရေကန်များကဲ့သို့သော ရေများသည် အင်အားကြီးမားသော အတားအဆီးများအဖြစ် ဆောင်ရွက်နိုင်သည့်အပြင် ကာကွယ်သူများအတွက် လျင်မြန်သော သယ်ယူပို့ဆောင်ရေး လမ်းကြောင်းများအဖြစ် ဆောင်ရွက်နိုင်ပါသည်။ တံတားများ ဖျက်ဆီးခြင်းနှင့် ပတ်သက်၍ ဖော်ပြခဲ့သည့်အတိုင်း စစ်ယာဉ်များနှင့် တပ်ဖွဲ့ဝင်များသည် ရေအတားအဆီးများကို ဖြတ်ကျော်ရန် အလွန်ခက်ခဲသည်။

စစ်ယာဉ်များ ဖြတ်ကျော်၍မရသော ရွံ့မြေကွက်များဖန်တီးရန် မြို့ပတ်ပတ်လည် ဧရိယာများတွင်လည်း ရေများကို သင့်ရဲ့ရဲတိုက်အတွက် ခေတ်သစ်ကျုံးအဖြစ် ဖြည့်ထည့်နိုင်သည်။

၂၀၂၂ ခုနှစ် ဖေဖော်ဝါရီလတွင် ယူကရိန်းကို ရုရှားကကျူးကျော်လာသောအခါ ယူကရိန်းသည် ၎င်း၏မြို့တော်ကီယက်မ်တစ်ဝိုက်ရှိ အဓိကမြစ်ကြီး (၃) ခုကို ရေလွှမ်းမိုးစေခဲ့သည်။ မြစ်များ၏ ရေမျက်နှာပြင်ကို မြှင့်တင်ပေးမည့် ဆည်များဖွင့်ထားသည့်အတွက်ကြောင့် မြစ်များက ပိုကြီး၊ ပိုနက်ရှိုင်းလာပြီး မြို့ကိုရောက်ဖို့ ကြိုးစားနေသည့် ရုရှားများအတွက် ပိုအားကောင်းသည့် အတားအဆီးများ ဖြစ်လာသည်။ ယူကရိန်းလူမျိုးများသည် လွန်စွာကြီးမားသော ဧရိယာကို ရေလွှမ်းမိုးရန် မြစ်တစ်စင်း၏ ရေမျက်နှာပြင်ကိုပင် မြှင့်တင်ခဲ့ပြီး ထိုမြို့သို့ ရုရှားလူမျိုးများ မဖြတ်သန်းနိုင်ခဲ့ကြပေ။



# ၁၁.၇။ သံဆူးကြိုးများ

သံဆူးကြိုးရှိလျှင် ၎င်းတို့ကို အသုံးပြုပါ။ သုံးခုကို ပေါင်းစည်းပါ။ အဆောက်အဦများကြားတွင် ချထားပါ။ သုံးကြိုးမျှင်ရှိသော သံဆူးကြိုးသည် ကားအများစုကိုရပ်တန့်စေပြီး တင့်ကားကိုပင် နှေးကွေးစေနိုင်သည်။







**ပုံနှင့် အကြောင်းအရာ ခရက်ဒစ်**
Top: 18charlie - https://bit.ly/36ENfXI Bottom: bit.ly/3LgnyMd

# ၁၁.၈။ တင့်ကားဖျက်မြောင်းများနှင့် ကတုတ်ကျင်းများ

သင့်တွင် အချိန်နှင့် တူးဆွရန်ပစ္စည်းများရှိပါက တင့်ကားဖျက်မြောင်းများတူးပြီး အရပ်သားများ၏ လိုအပ်ချက်ကို မထိခိုက်စေဘဲ မြို့၏ အထူထပ်ဆုံးနေရာများ ပတ်ပတ်လည်တွင် အတားအဆီးတစ်ခုစီကို ချထားနိုင်သည်။ ရည်ရွယ်ချက်မှာ လူနေထူထပ်သော မြို့ပြဒေသများတွင် ပို၍သွားလာရ ကြပ်စေရန်ဖြစ်သည်။






**ပုံနှင့် အကြောင်းအရာ ခရက်ဒစ်**
https://www.globalsecurity.org/military/library/policy/army/fm/5-102/Ch6.htm#s3

# ၁၁.၉။ "S" ပုံသဏ္ဌာန်အတားအဆီးများ

အကယ်၍ သင်အသုံးပြုရန် လမ်းတစ်လမ်းလိုအပ်ပါက စစ်ယာဉ်တန်းများ အရှိန်လျော့ကျသွားစေရန်အတွက် "S" သို့မဟုတ် မြွေပုံစံ အတားအဆီးတစ်ခု တည်ဆောက်ပါ။ တိုက်ခိုက်သူများက သင့်တည်နေရာသို့မရောက်ရှိမီ အဖျက်သမားများကို ဖမ်းလိုပါက စစ်ဆေးရေးဂိတ်တစ်ခု ချထားရန် စဉ်းစားပါ။ လွတ်လွတ်လပ်လပ် လျင်မြန်စွာ မောင်းနှင်နိုင်သော လမ်းများ မရှိသင့်ပါ။






# ၁၁.၁၀။ သံမဏိဆူးပါကာကွယ်ရေး အတားအဆီး ပစ္စည်းများ

တင့်ကားဖျက် ကာကွယ်ရေးအတားအဆီးပစ္စည်းများသည် ၄ ပေအရှည် ၄ x ၄ ထောင့် သံသုံးခုဖြင့် ဖွဲ့စည်းထားသော အစွယ်ခြောက်ချောင်း အတားအဆီးများဖြစ်သည်။ ၎င်းတို့ကို ယာဉ်များအောက်တွင် လှည့်၍ မလှုပ်မယှက်ဖြစ်စေရန် သို့မဟုတ် တိမ်းမှောက်စေရန် ဒီဇိုင်းထုတ်ထားသည်။ ၎င်းတို့ကို ထောင့်သံ၊ အပိုအကူပြားများဖြင့် သို့မဟုတ် မပါဘဲ၊ အပိုင်းသုံးပိုင်းကို တွဲလျက်ထားနိုင်သည်။



**ပုံနှင့် အကြောင်းအရာ ခရက်ဒစ်**
https://apps.dtic.mil/sti/pdfs/ADA423950.pdf

# ၁၁.၁၁။ သံချောင်းများကို အသုံးပြုထားသည့် လမ်းတားထောက်များနှင့် လေးဖက်ချွန် သံပခြုပ်များ

အစွန်းချွန်၍ တိုသောသံချောင်းအသေးများကို အသုံးပြု၍ သံထောက်အသေးများ ပြုလုပ်ပြီး အတွဲလိုက် တွဲကားလမ်းပေါ်ချ၍ ရန်သူ့ကားများကို အဟန့်အတားဖြစ်စေနိုင်သည်။ အဆိုပါအတားအဆီးများသည် ပြန့်ပြူး၍ ကျဉ်းသောလမ်းသွယ်များတွင် သင့်တော်သည်။ လေးဖက်ချွန် သံပခြုပ်များသည်လည်း ကားတာယာများ ဖောက်ရန်နှင့် ရန်သူ့ခြေမြန်တပ်များကို နှောင့်ယှက်ရန် အထူးအသုံးဝင်သည်။ သံပခြုပ်သည် အများအားဖြင့် ၁.၅ လက်မရှည် ၀.၁ လက်မအချင်းရှိသည့် အိမ်ရိုက်သံများကို သံချောင်းခေါင်းပိုင်းကိုဖြတ်ကာ အချင်းချင်းတွဲ ဂဟေဆော်ပြီးလုပ်နိုင်သည်။ သံဆူးကြိုးများ သုံးရမည့်နေရာတွင် သုံးနိုင်ပြီး လူမြင်ရန်ခက်သည်။






**ပုံခရက်ဒစ်**
https://www.washingtonpost.com/nation/2022/03/11/ukraine-medieval-weapons-caltrops-russian-vehicles/ ပုံနှင့် အကြောင်းအရာ ခရက်ဒစ် - https://apps.dtic.mil/sti/pdfs/ADA423950.pdf

# ၁၂။ တိုက်ခိုက်သူနှင့်ပတ်သက်၍အစီရင်ခံခြင်း

မြို့ပြခုခံကာကွယ်ရေးသမား အများစုသည် ခုခံတိုက်ခိုက်နိုင်စွမ်းမရှိနိုင်သော်လည်း တိုက်ခိုက်သူ၏ တည်နေရာနှင့် လှုပ်ရှားမှုဆိုင်ရာ အချက်အလက်များကို တိကျစွာ အချိန်နှင့် တစ်ပြေးညီ အစီရင်ခံခြင်းဖြင့် မြို့ပြနေရာကို ခုခံကာကွယ်ရာတွင် အထောက်အကူပြု နိုင်သေးသည်။

# ၁၂.၁။ အစီရင်ခံခြင်း (လမ်းကြောင်း)

ရန်သူနှင့်ပတ်သက်၍ သတင်းပို့ရန် နည်းလမ်းများစွာရှိသည်။ အရေးကြီးဆုံးအချက်မှာ တတ်နိုင်သမျှ အချက်အလက်များကို အတိုချုံးပြီး တိကျစွာ ပေးပို့ရန်ဖြစ်သည်။ ယေဘုယျအားဖြင့် စစ်ရေးအစီရင်ခံမှုပုံစံမှာ အရွယ်အစား၊ လှုပ်ရှားမှု၊ တည်နေရာ၊ ယူနစ်၊ အချိန်နှင့် ပစ္စည်းကိရိယာများဖြစ်သည် (အလေးပြုရန်)။

**အရွယ်အစား/ဘယ်သူလဲ** – ပမာဏနှင့် စစ်တပ်၊ လေယာဉ်၊ သင်္ဘော စသည်တို့ လှေကားထစ်ပုံအဆင့်လိုက် နေရာချထားပုံအခင်းအကျင်း/ပါဝင်သူတို့၏ ရာထူးအဆင့်များ သို့မဟုတ် အရွယ်အစားအဖြစ် ဖော်ပြသည်။ ဥပမာအားဖြင့်၊ "ရန်သူခြေလျင်တပ်သား 10 ယောက်" ("ရိုင်ဖယ်တပ်" မဟုတ်ပါ။)

**လှုပ်ရှားမှု/ဘာတွေလုပ်နေလဲ** – ဥပမာ၊ "လမ်းမှာမိုင်းတွေထည့်ထား" ။

**တည်နေရာ** – ၎င်းသည် ယေဘူယျအားဖြင့် စစ်ဘက်ဆိုင်ရာ ဇယားကွက်တစ်ခုဖြစ်သည်။

**ယူနစ်/ယူနီဖောင်း/မည်သူ** – အမည်နှင့် အခြားသတ်မှတ်အချက်အလက်များဖြစ်သည့် အကွက်၊ ခေါင်းဆောင်း၊ ယာဉ်အမှတ်အသားများ ။

**အချိန်** - သင်သတင်းပို့သည့်အချိန်မဟုတ်ဘဲ ရန်သူ၏လှုပ်ရှားမှုကို မြင်သည့်အချိန်ကို အစီရင်ခံရန်။

**စက်ပစ္စည်း** - ပါဝင်ပတ်သက်သည့်ကိရိယာများနှင့် အသုံးပြုသည့် နည်းဗျူဟာများအကြောင်း အချက်အလက်များ ထည့်သွင်း အစီရင်ခံရန်။

## အလေးပြုအစီရင်ခံခြင်း နမူနာ

| | |
|---|---|
| အရွယ်အစား | ရန်သူ ၇ ယောက် |
| လှုပ်ရှားမှု | အနောက်တောင်သို့သွားနေ |
| တည်နေရာ | GA123456 |
| ယူနစ်/ယူနီဖောင်း | ဘယ်ဖက်ပခုံးတွင် အနီရောင် ဗ ထောင့်ကြယ်အမှတ်နှင့် အစိမ်းရောင်ယူနီဖောင်း |
| အချိန် | 210200JAN16 |
| လက်နက် | စက်သေနတ်တစ်လက်နှင့် လောင်ချာတစ်ခုသယ်ဆောင်ထား |

**Credit:**
TC 3-21.75 – Warrior Ethos and Soldier Combat Skills

# ၁၂.၂။ အစီရင်ခံခြင်း (ဘေးကင်းရေး)

အရပ်သားတဦးက ရန်သူ၏အင်အားနှင့်စပ်လျဉ်း၍ သတင်းစုဆောင်းခြင်း သို့မဟုတ် သတင်းစုဆောင်း၍ အစီရင်ခံခြင်း ပြုလုပ်သည့်လုပ်ရပ်များကိုပင်လျှင် ရန်လိုမှုများတွင် ပါဝင်သည်ဟုယူဆရနိုင်ပြီး ထိုအရပ်သားများအနေဖြင့် အခြားရန်သူစစ်တပ်က ပစ်မှတ်ထား တိုက်ခိုက်ခြင်းကို ခံရနိုင်ကြောင်း သိထားရန် အရေးကြီးပါသည်။

ရန်သူတပ်များအကြောင်း သတင်းပို့ခြင်း သို့မဟုတ် စုဆောင်းခြင်းတို့ကို ဘေးကင်းစွာ လုပ်ဆောင်ရမည်။

စမတ်ဖုန်းဖြင့် ဓာတ်ပုံ သို့မဟုတ် ဗီဒီယိုများကဲ့သို့ အီလက်ထရွန်နစ် စုဆောင်းမှုကို လုံခြုံစွာ လုပ်ဆောင်ရမည် -

- သင့်စက်ပစ္စည်းပေါ် ရှိ မည်သည့် ပထဝီတည်နေရာလုပ်ဆောင်ချက်များကိုမဆို ပိတ်ပါ။

- အများသူငှာ ဆိုရှယ်မီဒီယာပလက်ဖောင်းပေါ်တွင် ဘယ်တော့မှ တိုက်ရိုက်လွှင့်မပစ်ပါနှင့်၊ မိမိ၏ဆိုရှယ်မီဒီယာပလက်ဖောင်းများကို ရှာဖွေတွေ့ရှိနိုင်ပြီး မိမိ၏မိတ်ဆွေတပ်ဖွဲ့များဆိုင်ရာ အချက်အလက်များကို ပစ်မှတ်ထားခံရ သို့မဟုတ် ဖော်ပြမိသကဲ့သို့ ဖြစ်နိုင်သည်။

- ဓာတ်ပုံ/ဗီဒီယိုများကို စုဆောင်းပြီး အခြားသူများအား ပေးအပ်ပါက၊ ၎င်းတို့ကို ဖျက်လိုက်ကြောင်း သေချာပါစေ။ မက်ဆေ့ချ်များကိုလည်း ဖျက်ပါ။ သတင်းအချက်အလက် ပေးသည့် သင့်စက်ပစ္စည်းပေါ်တွင် မှတ်တမ်းမထားခဲ့ပါနှင့်။




**ခရက်ဒစ်**
TC 3-21.75 – Warrior Ethos and Soldier Combat Skills

# ၁၃။ လက်နက်များ

မြို့ပြခံကာကွယ်ရေးသမားများသည် ၎င်းတို့ရရှိနိုင်သည့် သို့မဟုတ် ဖန်တီးနိုင်သည့် မည်သည့်လက်နက်ကိုမဆို အသုံးပြုနိုင်သည်။ ရန်သူက မိမိ၏ခံစစ်ထဲဝင်လာပြီး မိမိတို့က အနိုင်ရသွားသည့်အခါ ရန်သူ၏လက်နက်များကိုသိမ်းပိုက်ရန် အခွင့်အရေးရလိမ့်မည်။

# ၁၃.၁။ အထွေထွေလက်နက်များ ဘေးကင်းရေး

လက်နက်တိုင်းကို ကျည်အပြည့်ထည့်ထားသကဲ့သို့ သဘောထားပါ။

လက်နက်တွေကို တွေ့ကရာလျှောက်မပစ်ပါနှင့်။ ဂရုတစိုက်ကိုင်တွယ်ရမည်၊ ဖုန်ထဲပစ်ချခြင်းမျိုး၊ တောင်ဝှေးအဖြစ်သုံးခြင်းမျိုး သို့မဟုတ် မဆီလျော်သောနည်းလမ်းများဖြင့် ကိုင်တွယ်ခြင်းမပြုပါနှင့်။

ပစ်ရန်အဆင်သင့်မဖြစ်ပါက သင်၏လက်နက်ကို မချိန်ပါနှင့်။

မပစ်ခင်မှာ သင်၏ပစ်မှတ်ကို အမြဲဖော်ထုတ်ပါ။

မပစ်မချင်း သင့်လက်နက်ကို အမြဲလုံခြုံအောင်ထားပါ။

ချိန်ရွယ်ပြီး ပစ်ခတ်တော့မည် မဟုတ်လျှင် လက်ချောင်းကို သေနတ်မောင်းခလုတ်ပေါ် မတင်ပါနှင့်။





# ၁၃.၂။ အထွေထွေလက်နက်များအား ဂရုတစိုက်ထိန်းသိမ်းမှု

သင်၏လက်နက်များကို သန့်စင်ထားပါ - သံချေး၊ ဖုန်၊ ရွှံ့၊ ကာဗွန်နှင့် အခြား ညစ်ညမ်းသော ပစ္စည်းများ ကင်းစင်ပါစေ။

သင့်လက်နက်ကို နေ့တိုင်း သန့်ရှင်းပါ။

အဝတ်စုတ်ဖြင့်သုတ်ပြီး ဖြုတ်တပ်နိုင်သည့် အစိတ်အပိုင်းများသို့ ချောဆီလိမ်းပါ။

ညစ်ပေနေသော လက်နက်သည် တိုက်ခိုက်ရာတွင် လုပ်ဆောင်ချက် ချို့ယွင်းရုံသာမက ပိုဆိုးပါက တိုက်ပွဲရှုံးနိမ့်နိုင်သည်။



# ၁၃.၃။ AK–47 တည်ဆောက်ပုံ



| AK-47 | |
|---|---|
| Caliber | 7.62 x 39 mm |
| Weight (Empty) | Approx. 9.48 lbs |
| Length:<br>Fixed Buttstock/Folding Buttstock-Extended<br>Folding Buttstock-Folded | <br>Approx. 34.2 inches<br>Approx. 27.5 inches |
| Rifling | 4 grooves, right-hand twist<br>1 turn in 12 inches |
| Muzzle Velocity: | Approx. 2346 fps |
| Sustained Rate of Fire | 12/15 rounds per minute |
| Maximum Effective Range | 400 meters |
| Fire Selector | SAFE, AUTO, SEMI |
| Sights:<br>Front<br><br>Rear | <br>Adjustable front sight post for elevation<br>Adjustable windage drum for windage<br>Adjustable leaf sight for elevation |
| Magazine Capacity | 30 rounds |

4. **Left Side**. The left side view of the weapon displays the muzzle, barrel, gas tube, top cover, magazine release, and pistol grip. Refer to Figure 1.




Figure 1. Left Side of the AK-47 Rifle.

5. **Right Side**. The right side view of the weapon displays the buttstock, guide rod spring lock, trigger, selector lever, charging handle, rear sight, front sight, sling, and bayonet. Refer to Figure 2.




Figure 2. Right Side of the AK-47 Rifle.




Figure 1. Major Components of the AK-47.

*TM 8370-50007-OR/1, U.S. MARINE CORPS TECHNICAL MANUAL, OPERATOR'S MANUAL FOR RIFLE, 7.62 MM, AK-47*

## ၁၃.၄။ AK–47 (အဓိကအစိတ်အပိုင်းများ)

(၁) **ဖြုတ်/တပ်ဆင်ခြင်း** - သေနတ်အိမ်ဖြုတ်/တပ်ဆင်ခြင်းတွင် ရှေ့ဖက်ခြမ်းမှမြင်ရသည့် တပ်ဆင်ထားပုံအရ ဂါတ်စ်ဘလောက်၊ ဂါတ်စ်ကျူး၊ အပေါ်အောက် လက်ကိုင်အထိန်း၊ အလိုအလျောက် အပူကန်စပရိန်၊ hammer၊ ကျည်အိမ်လွှတ်ခလုတ်၊ လီဗာ၊ မောင်းခလုတ်၊ ပစ္စတိုလမ်းကြောင်းနှင့် သေနတ်ဒင်တို့ပါဝင်သည်။

(၂) **အဖုံး** - အပေါ် ဖုံးသည် သေနတ်အိမ်အတွင်းရှိ ကိရိယာများအားလုံးကို ဖုံး၍ အကာအကွယ်ပေးထားသည်။

(၃) **ပြန်ကန်စပရိန်နှင့် ကျည်ရိုက်တံတပ်ဆင်ခြင်း** - ပြန်ကန်စပရိန်နှင့် ကျည်ရိုက်တံတို့သည် အသုံးမပြုဘဲ လော့ခ်ချထားသည့်အနေအထားတွင် ကျည်ရိုက်တုံးကိရိယာတစ်စုလုံးကို မူလအနေအထားသို့ ပြန်ရောက်အောင် တပ်ဆင်ထားသည်။

(၄) **ကျည်ရိုက်တုံးနှင့် မင်းတုန်းတပ်ဆင်ခြင်း** - ကျည်ရိုက်တုံးတွင် ကျည်ဖြည့်ရန်အထိန်း၊ ပြွန်၊ မင်းတုံးနှင့် ကျည်ရိုက်တုံးထည့်ထားသောအိမ်တို့ ပါဝင်သည်။ ကျည်ရိုက်တုံးအိမ်တွင် မင်းတုံး၊ သေနတ်ပြောင်းထိန်းပင်၊ ကျည်လွှတ်၊ ကျည်လွှတ်စပရိန်၊ ကျည်ထွက်ကိုထိန်းထားသောပင်နှင့် ကျည်ထွက်လမ်းကြောင်းတို့ ပါဝင်သည်။ ယင်းသည် သေနတ်ပစ်လုပ်ငန်းစဉ်ကြီးတစ်ခုလုံးကို ဆောင်ရွက်ပေးသည်။

(၅) **ကျည်အိမ်** - ကျည်အိမ်သည် သတ္တု သို့မဟုတ် ပလတ်စတစ်ဖြင့် ရှိနိုင်ပြီး ကျည်အတောင့် ၃၀ ဆံ့သည်။ ကျည်အိမ်နှင့် သေနတ်အိမ်သည် မြဲမြံစွာ ချိတ်ဆက်ထားပြီး ကျည်အိမ်ထိန်းဖြင့် တွဲထားသည်။ ကျည်ရိုက်တုံးကို ရှေ့သို့တွန်းပို့လိုက်ခြင်းဖြင့် ကျည်ကိုကျည်အိမ်ထဲမှ သေနတ်ထဲသို့ ရောက်ရှိသွားစေသည်။

(၆) **သန့်ရှင်းရေးအတံ** - သန့်ရှင်းရေးပြုလုပ်သော အချောင်းသည် သေနတ်ကိုကြိုတင် ကာကွယ် ထိန်းသိမ်းမှုပြုခြင်းဖြစ်သည်။

# ၁၃.၅။ AK-47 (လက်ရွေးစင် အနေအထားများ)

SAFE. The weapon will not fire when the selector lever is set on SAFE. The selector lever must be off SAFE to chamber a round or to clear the weapon. Always place the selector lever on SAFE when inserting and removing a magazine. The selector lever can be set on SAFE even when the hammer is forward. Refer to Figure 6.




Figure 6. Selector Lever Placed on SAFE.

လုံခြုံသည်။ လက်နက်သည် လီဗာကို safe အဖြစ်ရွေးချယ်ထားပါက ကျည်မထွက်ပါ။ ကျည်အိမ်ကိုရှင်းရန် သို့မဟုတ် လက်နက်ကိုသန့်ရှင်းရေးပြုလုပ်ရန် လီဗာကို safe ဖြုတ်ရမည်။ ကျည်အိမ်အဖြုတ်အတပ်ပြုလုပ်သည့်အခါတိုင်း လီဗာကို safe ရွေးထားပါ။ hammer ကိုရှေ့သို့ ပို့ထားသော်လည်း လီဗာကို safe သို့ရွေးထားနိုင်ပါသည်။ ပုံ ၆ ကိုကြည့်ပါ။

SEMI. When the selector lever is placed on SEMI, the weapon will fire one round each time the trigger is pulled. The selector lever must be set on SEMI or AUTO to chamber a round or to clear the weapon. Refer to Figure 7.




Figure 7. The Selector Lever Placed on SEMI.

SEMI အနေအထား။ လီဗာကို SEMI (တစ်ဝက်) သို့ရွေးထားပါက မောင်းခလုတ် တစ်ကြိမ် ဆွဲလိုက်တိုင်း တစ်ခါကျည်ထွက်မည်ဖြစ်သည်။ ကျည်အိမ်တွင် ကျည်တစ်တောင့်

ကျန်နေချိန် သို့မဟုတ် လက်နက်ကို ရှင်းလင်းရန်အတွက် လီဗာကို SEMI သို့မဟုတ် AUTO တွင်ထားရမည်။ ပုံ ၇ ကိုကြည့်ပါ။

AUTO. When the selector lever is placed on AUTO, the weapon will continue to fire as long as the trigger is held to the rear or until the magazine is empty. The selector lever must be set on SEMI or AUTO to chamber a round or to clear the weapon. Refer to in Figure 8.



Figure 8. The Selector Lever Placed on AUTO.

အော်တိုအနေအထား။ လီဗာကို AUTO သို့ထားပါက မောင်းခလုတ်ကို နောက်သို့ဆွဲထားသည့် တစ်လျှောက်လုံး သို့မဟုတ် ကျည်အိမ်ထဲတွင် ကျည်ကုန်သည်အထိ အဆက်မပြတ် ပစ်ခတ်နိုင်မည်ဖြစ်သည်။ ကျည်အိမ်တွင် ကျည်တစ်တောင့် ကျန်နေချိန် သို့မဟုတ် လက်နက်ကို ရှင်းလင်းရန်အတွက် လီဗာကို SEMI သို့မဟုတ် AUTO တွင်ထားရမည်။ ပုံ ၈ ကိုကြည့်ပါ။

# ၁၃.၆။   AK-47 ကျည်ဖြည့်ခြင်း

### သတိပေးချက်

ကျည်အပြည့်ဖြည့်ထားသော ကျည်အိမ်တပ်ထားသည့် သေနတ်ပြုတ်ကျပါက ကျည်သည် သေနတ်အိမ်ထဲသို့ ရောက်သွားပြီး အမှတ်မထင် ကျည်ထွက်သွားနိုင်သည်။ ယခုသတိပေးချက်ကို မလိုက်နာပါက လူကိုထိခိုက်ခြင်း သို့မဟုတ် သေဆုံးခြင်း ဖြစ်စေနိုင်သည်။

### သတိပြုရန်

သေနတ်မောင်းကို ရှေ့သို့ဘယ်တော့မှ တွန်းမပို့ပါနှင့်။ ၎င်းဘာသာ ရှေ့သို့ရွေ့ပါစေ။

(၁) လီဗာကို Safe သို့ထားပါ။

(၂) ကျည်အိမ်၏ ရှေ့နှုတ်ခမ်းကို ကျည်အိမ်နှင့်ဆန့်ကျင်ဖက်အတိုင်း မြဲအောင်ထား၍ ကျည်အိမ်ကို အပေါ်သို့မတင်ပြီး နောက်သို့ “ကလစ်” ဆိုသည့်အသံကြားသည်အထိ ဆွဲယူပါ။ အဆိုပါကလစ်သံသည် ကျည်အိမ်ကို သူ့နေရာတွင်သူ နေရာတကျ အံဝင်ပြီဖြစ်ကြောင်း ဖော်ပြပါသည်။ ကျည်အိမ်မြဲမမြဲ မတင်ကြည့် ဆွဲဖြုတ်ကြည့်ပါ။

(၃) လီဗာကို SEMI သို့ထားပါ။

(၄) ကျည်အိမ်ခန်းထဲသို့ ကျည်ပို့ပါ။ မောင်းကို ရှေ့သို့မတွန်းပါနှင့်။

(၅) လီဗာကို Safe သို့ပြန်ထားပါ။

2. Seat the front lip of the magazine against the front of the magazine well and rock the magazine up and to the rear, until an audible “click” is heard indicating that the magazine release has locked the magazine in place. Push up and pull down on the magazine to ensure that it is firmly seated. Refer to Figure 1.




Figure 1. Inserting a Magazine.

3. Place the selector lever on SEMI.

4. Charge the weapon to chamber the first round. DO NOT ride the charging handle forward.

5. Place the selector lever on SAFE.

# ၁၃.၇။ AK-47 ဖြုတ်ခြင်း

(၁) သေနတ်ကို လုံခြုံသည့်ဖက်သို့လှည့်၍ လီဗာကို Safe သို့ထားပါ။

(၂) ကျည်အိမ်ဖြုတ်ရန် ကျည်အိမ်လွှတ်ခလုတ်ကိုဖိ၍ ကျည်အိမ်ကို အောက်သို့စိုက်ပြီး ရှေ့သို့တွန်းပါ။

1. Point the weapon in a safe direction and set the selector lever on SAFE.
2. To remove the magazine, press the magazine release toward the magazine and rock the magazine down and forward. Refer to Figure 2.




Figure 2. Removing the Magazine.

Place the selector lever on SEMI or AUTO. Refer to Figure 3.




Figure 3. Selector Lever on SEMI (left) or AUTO (right).

Pull and hold the charging handle to the rear.

Visually and physically inspect the chamber and receiver to ensure they contain no ammunition.

Release the charging handle, allowing it to return forward. Set the selector weapon on SAFE.

The weapon is now cleared and SAFE.

(၃)	လီဗာကို SEMI သို့မဟုတ် AUTO တွင်ထားပါ။

(၄)	မောင်းကို နောက်သို့ဆွဲ၍ ကိုင်ထားပါ။

(၅)	သေနတ်အိမ်ထဲတွင် ကျည်မကျန်တော့အောင် ကျည်အိမ်ခန်းထဲသို့ အမြင်ဖြင့်ရော စမ်းသပ်၍ပါ စစ်ဆေးကြည့်ရှုပါ။

(၆)	မောင်းကို လွှတ်ပြီး ရှေ့သို့ပြန်ရောက်သွားပါစေ။ လီဗာကို Safe သို့ပြန်ထားပါ။

(၇)	သေနတ်ကို ရှင်းလင်းပြီးဖြစ်ပါသည်။

# ၁၃.၈။ AK–47 ချိန်ညှိခြင်း

## အရှေ့ဖက်ခြမ်း

**Front Sight**.

a. Front Sight Post. Screwing the front sight post down will move the strike of the round UP, screwing the front sight post up will move the strike of the round DOWN. The combination tool (or the handle of the front sight adjustment tool) is used to screw the front sight post down or up. Refer to Figure 4.

b. The Windage Drum. Pushing the windage drum left will move the strike of the round RIGHT, pushing it right will move the strike of the round LEFT. The front sight adjustment tool (or an M249 front sight adjustment tool) is used to move the windage drum. Refer to Figure 4.




## အနောက်ဖက်ခြမ်း

**Rear Sight**. The rear sight aperture is on the end of the sight leaf. Moving the slide assembly to different distance markings on the sight leaf adjusts for distance to target. The slide assembly snaps into place on the distance markings on the sight leaf. Set the slide on "S" for ranges under 100 meters, "1" for 100 meters, "2" for 200 meters. Refer to Figure 5.



# ၁၃.၉။ Rocket Propelled Grenade (RPG) – 7




Airborne Model (RPG-7D)




US ARMY, TRADOC BULLETIN 3, Soviet RPG-7 Antitank Grenade Launcher, November 1967

# ၁၃.၁၀။ Rocket Propelled Grenade (RPG) – 7




| CHARACTERISTICS | RPG-7 |
|---|---|
| Length | 37.8 inches (unloaded)<br>52.6 inches (loaded) |
| Weight | |
| Unloaded | 14.5 pounds |
| Loaded | 19.0 pounds |
| Caliber | |
| Tube | 40mm |
| Round | 85mm |
| Rate of Fire | 4-6 rounds per minute |
| Range | |
| Arming | 5 meters |
| Sighting Range (Max.) | 500 meters |
| Maximum Range | 900 meters -- Self destructs |
| Velocity | |
| Initial | 117 meters per second |
| Rocket Assist. | 294 meters per second |
| Armor Penetration at zero degrees | 13 inches |
| Type Warhead | HEAT |

*အရေးကြီးသောမှတ်ချက် - RPG ပစ်ရန် အနည်းဆုံး ၅မီတာအကွာတွင်နေရမည်။

*US ARMY, TRADOC BULLETIN 3, Soviet RPG-7 Antitank Grenade Launcher, November 1967*

# ၁၃.၁၁။ မိုလိုတော့ဗ်ကော့တေးများ

မိုလိုတော့ဗ်ကော့တေး - မော်တော်ကားရှေ့ပစ်ပေါက်ရာတွင် အသုံးပြုရန် သင့်တော်သော ကိရိယာတစ်ခု။ ပြုလုပ်ရလွယ်ကူသည်။ မြို့ပြစစ်ပွဲများတွင် နီးကပ်စွာပါဝင်အသုံးပြုနိုင်မှုကြောင့် ထိရောက်မှုရှိသည် ။




နည်းလမ်းအချို့အတွက် စာမျက်နှာ

၇၆ - ၇၇ကို ကြည့်ပါ ။

*ပုံမှ ဆီလျော်အောင် ဘာသာပြန်သည် - : https://www.survivalkit.com/blog/making-an-effective-molotov-cocktail/ နှင့် အချက်အလက် - https://www.marines.mil/Portals/1/Publications/MCRP%2012-10B.1%20GN.pdf?ver=2020-02-12-121429-267*

# ၁၃.၁၂။ ဒရုန်းများ

တိုက်ခိုက်သူ၏ အီလက်ထရွန်နစ်စစ်ပွဲနှင့် အခြားစွမ်းဆောင်ရည်များအပေါ်အခြေခံ၍ စီးပွားဖြစ် ဒရုန်းများသည် ကြီးမားသောကိရိယာများ သို့မဟုတ် လက်နက်များ ဖြစ်နိုင်သည်။

ဝင်လာသော တိုက်ခိုက်သူများကို ထောက်လှမ်းရန် ဒရုန်းများကို အသုံးပြုနိုင်ပြီး တိုက်ခိုက်သူများကြောင့် ခုခံသူများကို အလန့်တကြားမဖြစ်ရအောင် ကာကွယ်နိုင်သည်။

တိုက်ခိုက်သူအား မည်သည့်နေရာတွင် ပစ်ခတ်ရမည်ကို သိရှိရန် ဒရုန်းများကို အသုံးပြုနိုင်သည်။ တိုက်ခိုက်သူများအပေါ် အရာများကို ပစ်ချရန် ဒရုန်းများကို အသုံးပြုနိုင်သည်။

ဒရုန်းများသည် တိုက်ခိုက်သူများ၏ နှလုံးသားထဲသို့ ကြောက်ရွံ့မှုကို ပေးစွမ်းနိုင်သည်။ ၎င်းတို့အနေဖြင့် ကောင်းကင်ကိုမော့ကြည့်ပြီး ဘာမှန်းမသိပါက ဒရုန်းသည်လူသတ် လက်နက်ဖြစ်ကြောင်း မသိနိုင်ပါ။



# ၁၄။ တိုက်ခိုက်ပါ၊ တိုက်ခိုက်ပါ၊ တိုက်ခိုက်ပါ

မြို့ပြကာကွယ်ရေး၏ ရည်ရွယ်ချက်မှာ ရန်သူတိုက်ခိုက်သူအားလုံးကို ဖျက်ဆီးရန် မဟုတ်သော်လည်း အဆက်မပြတ်/ ရွေးချယ်တိုက်ခိုက်မှုများက မြို့ကိုထိန်းသိမ်းထားနိုင်မည် ဖြစ်သည်။ မြို့ပြ၏လမ်းများကို ရန်သူ၏စစ်သားများ သေစေနိုင်မည့် သတ်ကွင်းများအဖြစ် ပြောင်းလဲမည်ဖြစ်သည်။

# ၁၄.၁။ ကာကွယ်ရန် အဆောက်အဦများကို ရွေးချယ်ပါ

လေးလံသော ကွန်ကရစ် အဆောက်အဦများကို အသုံးပြုပါ။ အားဖြည့်ကွန်ကရစ် နံရံထူထူများဖြင့် ပြုလုပ်သည့် အဆောက်အအုံများကို ရှာဖွေပါ။ အစိုးရ၊ တက္ကသိုလ်၊ စက်မှုဇုန်နှင့် ဘဏ်လုပ်ငန်း အဆောက်အအုံများသည် ကောင်းမွန်လေ့ရှိသည်။

ပြိုကျပျက်စီးနိုင်မည့် သို့မဟုတ် လောင်ကျွမ်းနိုင်မည့် မှန် သို့မဟုတ် သစ်သားဖြင့် ပြုလုပ်သည့် အဆောက်အအုံများကို မသုံးပါနှင့်။

အဝေးမှ တိုက်ခိုက်သူကို မြင်ရန်နှင့် ပစ်ခတ်ရန် ကျယ်ပြန့်သော မြင်ကွင်းရှိသည့် အဆောက်အဦများကို အသုံးပြုပါ။

သင်လုပ်ထားသော အပေါက်များ သို့မဟုတ် ရှိပြီးသား မြေအောက်ဥမင်လိုဏ်ခေါင်း များမှတစ်ဆင့် အဆောက်အအုံမှလွတ်မြောက်ရန် အစီအစဉ်အသင့်ရှိပါ။



# ၁၄.၂။ ခိုင်မာသောခံတပ်နေရာများ တည်ဆောက်ပါ

မြို့ပြအမှတ်အသားသည် ခံစစ်ရေးယာကို တပ်စွဲထားနိုင်သည့် ခိုင်ခံ့သော အဆောက်အအုံ တစ်ခုဖြစ်သည်။ ခုခံရေးသမားများသည် အားကောင်းစေရန်အတွက် မြို့ပြအဆောက်အအုံများတွင် လက်နက်နှင့် အချိန်များစွာကို ရင်းနှီးမြှုပ်နှံထားသည်။

မြို့ပြခုခံကာကွယ်ရေးသမားများသည် မိမိတို့၏ အမာခံခံတပ်များအတွင်းသို့ ရန်သူအား တွန်းပို့နိုင်ရန်အတွက် အတားအဆီးများကို တည်ဆောက်ကြခြင်းဖြစ်သည်။

ကောင်းမွန်စွာ တည်ဆောက်ထားသော ခိုင်မာသည့် ခံတပ်နေရာများသည် တိုက်ခိုက်သူအား ရှင်းလင်းရန် ရက်များစွာကြာနိုင်သည်။

ဥပမာအားဖြင့် ဒုတိယကမ္ဘာစစ်တွင် စတာလင်ဂရက်တိုက်ပွဲ၌ စစ်သားအယောက် ၂၀ ခန့်သည် လေးထပ်တိုက်အဆောက်အအုံကို ခိုင်မာသောခံတပ်နေရာအဖြစ် ပြောင်းလဲခဲ့သည်။ အဆောက်အဦးကြီးသည် ကျယ်ပြန့်သော မျက်နှာစာသုံးခုနှင့် ခြံဝင်းကျယ်တစ်ခုတွင် တည်ရှိသည်။ ၎င်းတို့သည် အဆောက်အဦပတ်ပတ်လည်တွင် ဆူးလိပ်များနှင့် တင့်ကားဖျက် မိုင်းများကို မြှုပ်နှံချထားသည်။ အတွင်းပိုင်း လူသွားလမ်းများ ဖန်တီးနိုင်ရန်အတွက် နံရံများကိုဖြို၍ အပေါက်များဖောက်ထားသည်။ အဆောက်အဦထောင့်နံရံများတွင် စက်သေနတ်ပစ်ခတ်နိုင်မည့် အပေါက်များထားရှိသည်။ အဆောက်အဦအပေါ် ပိုင်းသို့ တိုက်ရိုက် မဟုတ်သောပစ်ခတ်မှုများ ကျရောက်လာပါက မြေအောက်ခန်းသို့ ရွှေ့ပြောင်းသွားပြီး တင့်ကားများ ချဉ်းကပ်လာပါက အဆောက်အဦအပေါ် ပိုင်းအထပ်များသို့ ရွှေ့ပြောင်းပြီး တင့်ကားများ၏ ပျက်စီးလွယ်သောအမိုးဖုံးအပေါ်သို့ တင့်ကားပစ်ရိုင်ဖယ်ဖြင့် ပစ်ခတ် တိုက်ခိုက်ကြပါသည်။

ခုခံကာကွယ်ရေးသမားများသည် ဝင်ရောက်တိုက်ခိုက်သူများ၏ စက်ယန္တရားအများ အပြားနှင့် ပေါင်းစပ်တိုက်ခိုက်မှုများကို ဆန့်ကျင်အံတုပြီး တိုက်ခိုက်သူများကို အကျအဆုံး

များစေလျက် အဆောက်အအုံကို ၅၈ ရက်ကြာ ထိန်းသိမ်းထားခဲ့သည်။ ထိုအဆောက်အအုံကို နောက်ပိုင်းတွင် Pavlov's House ဟုခေါ်ဝေါ်ကြသည်။

## အိမ်တစ်လုံးကို ခိုင်မာသောအမာခံနေရာအဖြစ် ပြင်ဆင်ခြင်း




၁) တံစက်မြိတ်အောက်နံရံတွင် အပေါက်ငယ်

၂) ထပ်ခိုးတွင် အပေါက်

၃) အထပ်တွင်အပေါက်ဖွင့်လှစ်ခြင်း

၄) ထုတ်တန်း

၅) သံဇကာ

၆) ကန့်လန့်ကာ သို့မဟုတ် အိတ်ထုတ်ခြင်း။

၇) ခေါင်မိုးထောက်

၈) အင်္ဂတေကိုဖယ်ခြင်း သို့မဟုတ် မာကျောသောအဖုံးဖြစ်ခြင်း

၉) ကြမ်းပြင်ပေါ်တွင် သဲအိတ် ၂ လွှာ

၁၀) တံခါးများ

၁၁) တံခါးအဝင် အောက်ထစ် (နှောင့်နှေးစေရန်)

၁၂) သဲ

၁၃) သံဆူးချွန်တပ် ပျဉ်ပြားကို အဝင်ဝတွင်တပ်ခြင်း

၁၄) ကျောက်ခဲများဖြင့် ပြည့်နေသော သေတ္တာများ

၁၅) အုတ်ဖိနပ်

၁၆) ချောင်းကြည့်ပေါက်ဖြုတ်

၁၇) သံဆူးချွန်တပ် ပျဉ်ပြားကို ခုခံသူများအတွက် အဝင်လမ်းချန်ကာတပ် (ခုခံသူများအတွက် ကျန်သောလမ်းကျဉ်း)

၁၈) ရေ

၁၉) လက်နက်ခဲယမ်းမီးကျောက်

၂၀) ကျောက်ခဲများဖြင့် ထုပ်ပိုးထားသောအိတ်

၂၁) အရေးပေါ်ထွက်ပေါက်ဆီသို့ ဦးတည်သောတံခါး

၂၂) အိမ်ထောင့်တွင် သံဆူးကြိုးထူထူချ

၂၃) ရေအပြည့်ပါသည့်ရေချိုးကန် ၊

၂၄) ရေတံလျှောက်ဖြုတ်

၂၅) အခန်းကန့်နံရံတွင် အပြန်အလှန်ဆက်သွယ်မှုအပေါက်

